

SAKURA CONSTRUCTION GROUP CO.,LTD

Cherry Garden City, 14/3 Ward , South Okkalapa
Yangon, Myanmar.
Tel: +95 1 8500687 , Fax: 95 1 569073
Email: scgsakura1@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၅ ) ရက်
စာအမှတ်၊ ၀၀၁/၀၁/SCG/၂၀၁၇(MIC)

အကြောင်းအရာ ။ ။ **Sakura Construction Group Co.,Ltd. မန္တလေးဟိုတယ်ဆောက်လုပ်ရေးကိစ္စတင်ပြခြင်း။**

ကျွန်တော်များ Sakura Construction Group Co.,Ltd. သည် မန္တလေးတွင် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် မနသ - ၁၂၆၅/၂၀၁၇ (၉. ၈. ၂၀၁၇) ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်ခွင့်ပြုချက်ရရှိပြီးဖြစ်ပါသည်။

သို့ရာတွင် ကုမ္ပဏီအနေဖြင့် မြေပုံကူး၍ ဟိုတယ်ဆောက်မည့်မြေနေရာတွင် အဆောက်အဦးဆောက်လုပ်ခွင့်ရရှိရေးအတွက် အောက်ပါအတိုင်းလုပ်ဆောင်လျှက်ရှိပါသည်။

(၁) မီးသတ်ထောက်ခံချက် နှင့် စည်ပင်သာယာခွင့်ပြုချက်ရရှိရေးအတွက် တင်ပြတောင်းခံထားပါသည်။

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့လည်း တင်ပြထားပါသည်။ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်နှင့် ထောက်ခံချက်များရရှိပြီးမှသာလျှင် မြေကိစ္စကို မီးရထားဝန်ကြီးဌာနမှ စာချုပ်ချုပ်မည်ဖြစ်ပါ၍ ခွင့်ပြုချက်သဘောထားများမရရှိသေးပါသဖြင့် စာချုပ်ချုပ်ဆို၍မရနိုင်သေးပါ။ သို့ပါ၍ မြေနေရာလွှဲပြောင်းခြင်း၊ မြေနေရာရှင်းလင်းခြင်းများကို လုပ်ဆောင်၍မရသေးပါကြောင်း အကြောင်းကြားတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Htay Aung
President
Sakura Construction Group Co., Ltd.

MIC

| ဖက်ရှုပြီး | |
|---|---|
| ရာထူး | လက်မှတ် |
| ဥက္ကဋ္ဌ | |
| အတွင်းရေး[illegible] | |
| ညွှန်ကြားရေးမှူး[illegible] | |
| ဒုတိယညွှန်[illegible] | |
| ညွှန်ကြားရေးမှူး | |

Description of Motor Vehicle : ISUZU BOX TRUCK (10' 1.5 TONS)

Chassis No / Engine No. : (1) NHR69-7010125

Car No. : (1) 1L-6594 (YGN)



ပြည်သူ့ကျန်းမာရေးဦးစီးဌာန
မြို့နယ်ပြည်သူ့ကျန်းမာရေးဦးစီးဌာနမှူးရုံး
ချမ်းအေးသာစံမြို့နယ်၊မန္တလေး
စာအမှတ်- ၃၃၂ /ဟိုတယ်/အေးသစ/မန်း
ရက်စွဲ-၂၀၁၇ ခုနှစ်၊ စက်တင်ဘာ လ (၄)ရက်

# ထောက်ခံချက်

မန္တလေးတိုင်းဒေသကြီး၊ချမ်းအေးသာစံမြို့နယ်၊၂၈လမ်း၊၇၇x၇၈လမ်းကြား၊ပေမာဇလရပ်ကွက်၊ ရထားပို့ဆောင်ရေးဝန်ကြီးဌာန ၊ မြန်မာ့မီးရထားပိုင်၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေ(အလျား၁၁၄'x ၁၀၀' )ပေါ်တွင် ဦးဌေးအောင်၁၂/ဇဟန(နိုင်) ၀၀၉၈၈၇ ပိုင် ဟိုတယ် ဆောက်လုပ်မည့် မြေအောက်ထပ်+RC(၁၁) အဆောက်အဦးအား ကျန်းမာရေးနှင့် ညီညွတ်စွာ ဆောက်လုပ်ရန် နှင့် ကျန်းမာရေးဌာနမှ အချိန်ခါမရွေးထုတ်ပြန်သော စည်းကမ်းများကို လိုက်နာဆောင်ရွက်ပါက ဟိုတယ်ဆောက်လုပ်ရန် အတွက် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံအပ်ပါသည်။

ဒေါက်တာလင်းလင်းချစ်
လက်ထောက်ညွှန်ကြားရေးမှူး
မြို့နယ်ပြည်သူ့ကျန်းမာရေးဦးစီးဌာန
ချမ်းအေးသာစံမြို့နယ်၊မန္တလေးမြို့

သက်ဆိုင်ရာသို့



# SAKURA CONSTRUCTION GROUP CO.,LTD

*Cherry Garden City, 14/3 Ward , South Okkalapa*
*Yangon, Myanmar.*
*Tel: +95 1 8500687 , Fax: 95 1 569073*
*Email: scgsakura1@gmail.com*

စာအမှတ် ၊၀၃၂ /၁၁ / SCG / ၂၀၁၇

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊နိုဝင်ဘာ၊ (၁၆) ရက်

သို့

ဝန်ကြီးချုပ်

တိုင်းဒေသကြီးအစိုးရအဖွဲ့။

မန္တလေးတိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် ဟိုတယ်ဆောက်လုပ်ခွင့်ပြုပါရန်။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ချမ်းအေးသာစံမြို့နယ် ၊ ဟေမာဇလရပ်ကွက် ၊ မြန်မာ့မီးရထားပိုင် ၊ မန္တလေးမြို့ (၂၈)လမ်း ၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက်အနောက်ဘက်ရှိ (၁၁၃ပေ x ၁၀၀ပေ) မြေ(၀.၂၅၉၅) ဧကအား B.O.T စနစ် ဖြင့်ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်ရန် တင်ဒါအောင်မြင်ခဲ့ပြီးဖြစ်သော Sakura Construction Group (SCG) Co.,Ltd မှ ဟိုတယ်အဆောက်အဦ ဆောက်လုပ်နိုင်ပါရန်အတွက်ဆောက်လုပ်ခွင့် ပြုပါရန် လေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

(ထေး)

Htay Aung
President
Sakura Construction Group Co., Ltd.

မိတ္တူကို

-ရုံးလက်ခံ




# SAKURA CONSTRUCTION GROUP CO.,LTD

Cherry Garden City, 14/3 Ward , South Okkalapa
Yangon, Myanmar.
Tel: +95 1 8500687 , Fax: 95 1 569073
Email: scgsakura1@gmail.com

စာအမှတ် ၊၀၃၃ /၁၁ / SCG / ၂၀၁၇
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ၊နိုဝင်ဘာ၊ (၁၄) ရက်

သို့

ဝန်ကြီး
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း
တိုင်းဒေသကြီးအစိုးရ
မန္တလေးတိုင်းဒေသကြီး။

အကြောင်းအရာ ။ ။ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်နိုင်ရန်အတွက် ဟိုတယ်ဆောက်လုပ်ခွင့်ပြုပါရန်။

အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ ချမ်းအေးသာစံမြို့နယ် ၊ ဟေမာဇလရပ်ကွက် ၊ မြန်မာ့မီးရထားပိုင် ၊ မန္တလေးမြို့ (၂၈)လမ်း ၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက်အနောက်ဘက်ရှိ (၁၁၃ပေ x ၁၀၀ပေ) မြေ(၀.၂၅၉၅) ဧကအား B.O.T စနစ် ဖြင့်ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင် ဆောင်ရွက်ရန် တင်ဒါအောင်မြင်ခဲ့ပြီးဖြစ်သော Sakura Construction Group (SCG) Co.,Ltd မှ ဟိုတယ်အဆောက်အဦ ဆောက်လုပ်နိုင်ပါရန်အတွက်ဆောက်လုပ်ခွင့် ပြုပါရန် လေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ထေး

Htay Aung
President
Sakura Construction Group Co., Ltd

မိတ္တူကို
-ရုံးလက်ခံ



# SAKURA CONSTRUCTION GROUP CO.,LTD

*Cherry Garden City, 14/3 Ward , South Okkalapa*
*Yangon, Myanmar.*
*Tel: +95 1 8500687 , Fax: 95 1 569073*
*Email: scgsakura1@gmail.com*

စာအမှတ် ။ ။၀၃၅ /၁၁ / SCG / ၂၀၁၇

ရက်စွဲ။ ။ ၂၀၁၇ ခုနှစ် ၊ နိုဝင်ဘာ လ ၊ ၁၄ ရက်။

သို့

တိုင်းဒေသကြီးမီးသတ်ဦးစီးမှူး

မန္တလေးတိုင်းဒေသကြီး။

အကြောင်းအရာ။ ။အဆောက်အဦ မီးဘေးလုံခြုံရေး (Fire Safety) အတွက်စစ်ဆေးအကြံပြုချက် တောင်းခံခြင်း။

အထက်ဖော်ပြပါ အကြောင်းအရာနှင့် ပတ်သက်၍ ချမ်းအေးသာစံမြို့နယ် ၊ ဟေမာဇလရပ်ကွက် ၊ မြန်မာ့မီးရထားပိုင် ၊ မန္တလေးမြို့ (၂၈)လမ်း ၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက်အနောက်ဘက် (၁၁၅ပေ x ၁၀၂ပေ) မြေ(၀.၂၆၉) ဧက ရှိ စီမံကိန်းမြေကွက်ပေါ်တွင် Sakura Construction Group Co.,Ltd (SCG) မှ အထပ်မြင့်အဆောက်အဦ ဆောက်လုပ်မည်ဖြစ်ပါသည်။

အဆိုပါအဆောက်အဦမှာ (Basement -1+ 11 Storeyed) ဟိုတယ်အဆောက်အဦ ဖြစ်ပါသဖြင့် မီးသတ်ဦးစီးဌာန ၏ အဆောက်အဦ မီးဘေးလုံခြုံရေး (Fire Safety) အတွက်စစ်ဆေးအကြံပြုချက် များရယူနိုင်ပါရန်အတွက် ပုံစံများပူးတွဲ၍ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ပုံ ၊ (signature)

Htay Aung
President
Sakura Construction Group Co., Ltd.

မိတ္တူကို

-ရုံးလက်ခံ



မြန်မာ့မီးရထား
အင်ဂျင်နီယာမှူး (မြို့ပြ) ရုံး
တိုင်းအ မှတ် (၃) မန္တလေး
စာအမှတ်၊ ၈လ/ ၃၀၁
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာလ ၁၃ ရက်

သို့

ဌာနမှူး
အဆောက်အအုံနှင့်ကုန်ရုံ ဌာန
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

အကြောင်းအရာ။ **မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ် (၂၈) လမ်း၊ (၇၇x၇၈) လမ်းကြားတွင် တည်ဆောက်မည့် အဆောက်အဦပုံစံ ပေးပို့ခြင်း။**

ရည်ညွှန်းချက် ။ ဥက္ကဌ၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၈-၂၀၁၇ ရက်စွဲပါခွင့်ပြုမိန့် အမှတ်၊ မနသ-၁၂၆၅/၂၀၁၇

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာစံမြို့နယ်၊ ဟေမာဇလရပ်ကွက် (၂၈) လမ်း၊ (၇၇x၇၈) လမ်းကြားရှိ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဌာနဝန်ကြီးရိပ်သာ အဆောက်အဦအနီးတွင် မြန်မာ့မီးရထားပိုင်မြေလွတ် (၁၁၃'x၁၀၀') (၀.၂၆)ဧကအား BOT စံနစ်ဖြင့် ဆောင်ရွက်ရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူခဲ့ရာ SAKURA Trade Center Co.Ltd မှ တင်ဒါအောင်မြင်ခဲ့ပြီး လုပ်ကိုင်ခွင့်ရရှိပြီ ဖြစ်ပါသည်။
၂။ ထို့ပြင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှလည်း ရည်ညွှန်းပါစာဖြင့် ခွင့်ပြုမိန့်ရရှိပြီးဖြစ်ရာ လုပ်ငန်းဆောင်ရွက်ခွင့်ရသည့် ကုမ္ပဏီအနေဖြင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦများ တည်ဆောက်သွားမည်ဖြစ်ပါသည်။အဆောက်အဦများ အမြန်ဆုံးတည်ဆောက်နိုင်ရန်အတွက် ဟိုတယ်လုပ်ငန်းပတ်သက်သည့် အဆောက်အဦပုံစံများအား စိစစ်ပေးပါရန် ပူးတွဲပေးပို့အပ်ပါသည်။
၃။ သို့ပါ၍ ဟိုတယ်တည်ဆောက်မည့် အဆောက်အဦပုံစံနှင့်ပတ်သက်သည့် လိုအပ်ချက်များရှိပါက ပြန်ကြားပေးပါရန် ညှိနှိုင်းမေတ္တာရပ်ခံ အကြောင်းကြားအပ်ပါသည်။

ပူးတွဲပါ - အဆောက်အဦပုံစံ (၁) အုပ်
- ခွင့်ပြုစာနှင့် စာချုပ် (၇) စောင်

လက်ထောက်အထွေထွေမန်နေဂျာ (မြို့ပြ)
တိုင်းအမှတ် (၃) မန္တလေး
(အောင်နိုင်၊ လက်ထောက်အင်ဂျင်နီယာ)

မိတ္တူ -
- အထွေထွေမန်နေဂျာ (အထက်မြန်မာပြည်) မန္တလေး
- တိုင်းတာဝန်ခံ၊ တိုင်းအမှတ် (၃) မန္တလေး
- မန်နေဂျာ (စီးပွားရေး)၊ တိုင်းအမှတ် (၃) မန္တလေး
- တွဲဘက်အတွင်းရေးမှူး၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
- SAKURA Trade Center Co.Ltd




မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
အ ဆောက် အ အုံ နှင့် ကုန် ရုံ ဌာ န
စာအမှတ်၂၉၄၇ /၃-၅ အ(ထ-၁)/ ၂၀၁၇
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ စက်တင်ဘာ လ ၂၈ ရက်

သို့

ဦးအောင်နိုင်(လက်ထောက်အင်ဂျင်နီယာ)
လက်ထောက်အထွေထွေမန်နေဂျာ
တိုင်းအမှတ်(၃)၊ မန္တလေး

အကြောင်းအရာ။ **ချမ်းအေးသာစံမြို့နယ်၊ ၂၈ လမ်း၊ ၇၇×၇၈ လမ်းကြားတွင် တည်ဆောက်မည့် အဆောက်အဦပုံစံပေးပို့လာခြင်းကိစ္စ**

ရည်ညွှန်းချက် ။ ဦးအောင်နိုင်(လက်ထောက်အင်ဂျင်နီယာ)၊ လက်ထောက်အထွေထွေမန်နေဂျာ၏ (၁၃-၉-၂၀၁၇) ရက်စွဲပါစာအမှတ်(၈/၃၀၁)

၁။ ချမ်းအေးသာစံမြို့နယ်၊ ဟေမဇလရပ်ကွက်၊ ၂၈ လမ်း၊ ၇၇×၇၈ လမ်းကြားရှိ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဌာနဝန်ကြီးရိပ်သာအဆောက်အဦတွင် မြန်မာမီးရထားပိုင်မြေကွက်(၁၁၃'×၁၀၀')အား ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန် ဟိုတယ်တည်ဆောက်မည့်အဆောက်အဦပုံစံများအား စိစစ်ပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာခြင်းအပေါ် အဆောက်အဦဆောက်လုပ်ခွင့်ကို လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုမိန့်တင်ပြလျှောက်ထားရမည်ဖြစ်ကြောင်းနှင့် လျှောက်ထားတင်ပြရာတွင် အောက်ပါအချက်အလက်များနှင့်အတူ တင်ပြတောင်းခံရမည်ဖြစ်ပါကြောင်း အသိပေးအကြောင်းကြားပါသည်-

(က) (၁)နှစ်အတွင်းထုတ်ပေးထားသော မြေစာရင်းမြေပုံစာရင်း
(ခ) မြေပိုင်ဆိုင်မှုအထောက်အထား
(ဂ) လျှောက်ထားသူနှင့်အင်ဂျင်နီယာမှ လက်မှတ်ရေးထိုးထားသော အဆိုပြုပုံစံ(၃)စုံ (A1 Size)
(ဃ) လျှောက်ထားသူ၏ မှတ်ပုံတင်မိတ္တူ၊ အိမ်ထောင်စုဇယားမိတ္တူ
(င) ဘေးပတ်ဝန်းကျင်ထောက်ခံချက်နှင့် သက်ဆိုင်ရာရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်
(စ) ဟိုတယ်ခရီးထောက်ခံချက်
(ဆ) ရေနှင့်သန့်ရှင်းမှုဌာန၊ သန့်ရှင်းရေးဌာန၊ မီးသတ်ဦးစီးဌာနထောက်ခံချက်၊ မြန်မာလျှပ်စစ်ဓါတ်အားပေးရေးကော်ပိုရေးရှင်း၏ ထောက်ခံချက်

၂၈၊၉

ဌာနမှူး
အဆောက်အအုံနှင့်ကုန်ရုံဌာန

မိတ္တူ
ကော်မတီဝင်၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
ရုံးလက်ခံ
မျှော




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်




ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၂၆၅ / ၂၀၁၇ ။ ၂၀၁၇ ခုနှစ်၊ ဩဂုတ် လ ၉ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးမွေးအောင်

(ခ) **အဘ အမည်** ဦးခွေး

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ဗဟန(နိုင်) ၀၀၉၈၈၇

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁)၊ ပန်းကြာ၀တ်မှုံလမ်း၊ (၁၄/၃) ရပ်ကွက်၊ တောင်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** SAKURA CONSTRUCTION GROUP COMPANY LIMITED (ဆာကူရာ ဆောက်လုပ်ရေး အဖွဲ့ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ ၀.၂၅၉၅ ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၀၀၀၀.၀၀ သန်း (စုစုပေါင်း ကျပ်သန်း တစ်သောင်းတိတိ)

(ဈ) **တည်ဆောက်ရေးကာလ** ၁၈ လ

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၃၀ နှစ်

9.8.17

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇၈ /၂၀၁၇ (မနသ)

၂၀၁၇ ခုနှစ် ဩဂုတ် လ ၉ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ (၂၈)လမ်း၊ (၇၇ x ၇၈) လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ ၀.၂၅၉၅ ဧက (၁၁၃၀၀ စတုရန်းပေ) အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး Basement (၁)ထပ် + (၁၁)ထပ် အဆောက်အဦ တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းအား ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၁၁ ရက်နေ့တွင် ကျင်းပခဲ့သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၀/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေး အဖွဲ့ ကုမ္ပဏီလီမိတက်) အား B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း လုပ်ကိုင် ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၁၂၆၅ /၂၀၁၇ ကို ထုတ်ပေးလိုက်သည်။

၂။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာ အမှတ် ၁၂၃/၂၀၁၆(၁၆-၁၁-၂၀၁၆)အရ သတ်မှတ်ထားသော ကာလအတွင်း တင်ပြခဲ့သဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ ဝန်ဆောင်မှုလုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို သီးသန့် ရန်ပုံငွေ ထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) တို့ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်း စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၇။ BOT စနစ်ဖြင့် မြေငှားရမ်းသက်တမ်းကာလမှာ ကနဦးနှစ်(၃၀) နှင့် နှစ်ဖက်ညှိနှိုင်း၍ တစ်ကြိမ်လျှင် (၅)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းနိုင်သည်။ ထိုသို့တိုးမြှင့်ခြင်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရယူရမည်။

၈။ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သိန်း ၂၅၀၀ အား မြန်မာ့မီးရထားသို့ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်း စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း အပြီးအပြတ် ပေးသွင်းရမည်။

၉။ ငှားရမ်းမည့်မြေ ၀.၂၅၉၅ ဧက(၁၁၃၀၀ စတုရန်းပေ)အတွက် နှစ်စဉ်မြေငှားရမ်းခ အဖြစ် တစ်နှစ်လျှင် ကျပ် ၁၂၀၀ သိန်းနှုန်းဖြင့် နှစ်စဉ်(၂)ကြိမ်ခွဲ၍ ပေးသွင်းရမည်။

၁၀။ နှစ်စဉ်မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ်၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ရယူရမည်။ ငှားရမ်းခကို ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၀% ထက် မကျော်လွန်စေရ။

၁၁။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် ငှားရမ်းကာလ နှစ် ၃၀ ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့် အခါဖြစ်စေ (၃)လအတွင်း မြေနှင့်တကွ အဆောက်အအုံ အပါအဝင် အဆောက်အအုံနှင့် ဆက်စပ် ပတ်သက်သော ပစ္စည်းအားလုံးကို ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း မြန်မာ့ မီးရထားသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည်။

၁၂။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် ဟိုတယ် တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ် နှင့်ခရီးသွားလာရေး ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့်တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ် တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်နှင့်စံနှုန်းများ (Basic Requirement and Criteria)ထက် မနိမ့်ကျစေရေးအတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၃။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေး အတွက် ဟိုတယ် နှင့် ခရီးသွားလာရေး ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၄။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေး အတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်းပေါ်ပေါက်လာသည့်အခါ အဆိုပါဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၁၅။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်းအတွက် Global Treasure Bank (Public Company

Limited) ထံမှ ချေးငွေရယူခြင်း ကိစ္စသည် ငွေချေးငှားသူ Global Treasure Bank နှင့် ငွေချေးယူသူ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)တို့၏ တာဝန်သာ ဖြစ်စေရမည်။

၁၆။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၇။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေး အန္တရာယ် မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်းစနစ်တကျ ထားရှိဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ် ဦးစီးဌာန၏ ဥပဒေများ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၈။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံရမည်။

၁၉။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၀။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ

အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြုခွင့်ပြုချက်ကို ရယူရမည်။

၂၂။ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ သက်ဆိုင်ရာ ဝန်ကြီး ဌာနများနှင့် အဖွဲ့အစည်းတို့မှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထား သည့် ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသည့် လုပ်ငန်းလိုင်စင်များနှင့် မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူ နိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းသည် အထိ အရေးယူခြင်းခံရမည်။

၂၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

9.8.17

(ကျော်ဝင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ မရက- ၄/မ- ၁၄၉၉/၂၀၁၇ ( ၅၆၉ - ၅၂ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ် လ ၉ ရက်

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန

မန္တလေးတိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီ

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

မန္တလေးမြို့တော် စည်ပင်သာယာရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံခရီးသွားလုပ်ငန်းအဖွဲ့ချုပ်

တိုင်းဒေသကြီးဦးစီးမှူးရုံး၊ မန္တလေးတိုင်းဒေသကြီး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

မန်နေဂျင်းဒါရိုက်တာ၊ Sakura Construction Group Company Limited (ဆာကူရာ ဆောက်လုပ်ရေးအဖွဲ့ ကုမ္ပဏီလီမိတက်)

Sakura



# ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

၂၀၁၇ ခုနှစ်၊ ဇူလိုင်လ (၁၁) ရက်၊ (၀၈း၃၀) နာရီတွင် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၀/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးမှတ်တမ်း

အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးသို့ တက်ရောက်ကြပါသည်-

ဦးကျော်ဝင်း ဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ဦးထွန်းထွန်းနိုင် အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ဦးခင်မောင်ရီ အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

ဦးထိန်လွင် အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာန

ဦးမျိုးအောင် အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

ဦးတိုးအောင်မြင့် အဖွဲ့ဝင်
အမြဲတမ်းအတွင်းဝန်
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဦးဌေးချွန် အဖွဲ့ဝင်
ဒုတိယညွှန်ကြားရေးမှူးချုပ် (ငြိမ်း)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဦးအေးလွင် အဖွဲ့ဝင်
ဗဟိုအလုပ်အမှုဆောင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှု လုပ်ငန်းရှင်များအသင်းချုပ်

ဦးအောင်နိုင်ဦး အတွင်းရေးမှူး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဒေါ်မြသူဇာ တွဲဖက်အတွင်းရေးမှူး
ဒုတိယညွှန်ကြားရေးမှူးချုပ် (ငြိမ်း)
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန

**အစည်းအဝေး မတက်ရောက်သူများ (တာဝန်)**

ဒေါက်တာသန်းမြင့် ဒုတိယဥက္ကဋ္ဌ
ပြည်ထောင်စုဝန်ကြီး
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးထွန်းထွန်းဦး အဖွဲ့ဝင်
ပြည်ထောင်စုရှေ့နေချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး

ဦးလှကျော် အဖွဲ့ဝင်
ဒုတိယဝန်ကြီး
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

**ကိုယ်စားလှယ်/ ဘာသာရပ်/ ကျွမ်းကျင်သူအဖြစ် တက်ရောက်သူများ**

ဦးခင်မောင်ဇော်

ညွှန်ကြားရေးမှူးချုပ်

ငါးလုပ်ငန်းဦးစီးဌာန

စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဦးစိုးသိန်း

ညွှန်ကြားရေးမှူးချုပ်

ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးဦးစောသိန်း

အင်ဂျင်နီယာချုပ်

လမ်းဦးစီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးကျော်ဆန်း

ဦးဆောင်ညွှန်ကြားရေးမှူး

အမှတ်(၁) သတ္တုတွင်းလုပ်ငန်း

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

ဦးတင်စိုး

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့သင်္ဘောကျင်းလုပ်ငန်း

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးမောင်မောင်ထွေးဆွေ

ညွှန်ကြားရေးမှူး

အကောက်ခွန်ဦးစီးဌာန

စီမံကိန်းနှင့် ဘဏ္ဍာရေး ဝန်ကြီးဌာန

ဦးနိုင်ဝင်း
ညွှန်ကြားရေးမှူး
ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန
ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန

ဦးသန်းဇော်
ညွှန်ကြားရေးမှူး
မြန်မာ့ ရေနံနှင့် သဘာဝဓါတ်ငွေ့လုပ်ငန်း
လျှပ်စစ်နှင့် စွမ်းအင် ဝန်ကြီးဌာန

ဦးမြင့်အောင်
ညွှန်ကြားရေးမှူး
ပြည်နယ်စည်ပင်သာယာရေးအဖွဲ့
မွန်ပြည်နယ်

ဦးတင့်လွင်
ဒုတိယအင်ဂျင်နီယာချုပ် (မြို့ပြ)
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဒေါက်တာခင်မောင်လတ်
ဒုတိယညွှန်ကြားရေးမှူး
မွေးမြူရေးနှင့် ကုသရေး ဦးစီးဌာန
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

ဒေါ်မိုးသီတာ
ဒုတိယညွှန်ကြားရေးမှူး
မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာန
ဆောက်လုပ်ရေး ဝန်ကြီးဌာန

ဦးမြင့်စိုး
ဒုတိယညွှန်ကြားရေးမှူး
သတ္တုတွင်းဦးစီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန

ဦးအေးလူ
ဒုတိယညွှန်ကြားရေးမှူး
တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ဦးအောင်မြင့်လှိုင်
အထွေထွေမန်နေဂျာ
မြန်မာ့မီးရထား
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးတင်ထွဋ်အောင်
ဒုတိယအထွေထွေမန်နေဂျာ
အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်း
စက်မှုဝန်ကြီးဌာန

ဒေါ်စန်းစန်းလွင်
ဒုတိယအထွေထွေမန်နေဂျာ
မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန

ဦးအေးဟိန်
ဒုတိယအထွေထွေမန်နေဂျာ
မြန်မာ့စီးပွားရေးကော်ပိုရေးရှင်း
ကာကွယ်ရေးဝန်ကြီးဌာန

ဦးအောင်ကျော်ထွန်း
အတွင်းရေးမှူး
မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ

ဦးလှဝင်းတင်
အတွင်းရေးမှူး
မွန်ပြည်နယ်အစိုးရအဖွဲ့

ဦးဝင်းမိုလ်
အတွင်းရေးမှူး
မတ္တရာမြို့နယ် စည်ပင်သာယာရေးအဖွဲ့

ဦးရွှေကျော်လှ
ဌာနခွဲမှူး
အင်ဂျင်နီယာဌာန (အဆောက်အအုံ)
ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ

ဦးစံရွှေထွန်း
ဌာနခွဲမှူး
ဈေးများဌာန
ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ

## ၁။ ဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း

ကော်မရှင်ဥက္ကဋ္ဌ ပြည်ထောင်စုဝန်ကြီး ဦးကျော်ဝင်းက ယနေ့အစည်းအဝေးတွင် ကော်မရှင်အဖွဲ့ဝင်များအား ကျန်းမာစွာနှင့် တွေ့ရ၍ ဝမ်းသာပါကြောင်း၊ ကော်မရှင်စတင်ဖွဲ့စည်းချိန်မှစ၍ ယခုအချိန်အထိ ၁ နှစ်ရှိပြီဖြစ်ကြောင်း၊ ယခင်အဖွဲ့ဝင်ဟောင်းများသည်လည်း မှန်ကန်တိကျစွာ ဖွံ့ဖြိုးတိုးတက်ရေးအတွက် ဦးတည်ပြီး ဆောင်ရွက်ခဲ့ကြောင်း၊ တစ်ချို့ကိစ္စများသည် အခြားအဖွဲ့အစည်းများနှင့် ဆက်စပ်နေ၍ အချိန်ပေးဆောင်ရွက်ရသည်များ ယနေ့အထိရှိကြောင်း၊ ဥပဒေ၊ နည်းဥပဒေ၊ အမိန့်ကြော်ငြာစာများလည်း ပြဋ္ဌာန်းပြီးဖြစ်၍ အခြေတည်ပြီးဖြစ်ကြောင်း၊ ဆောင်ရွက်ခဲ့သောလုပ်ငန်းစဉ်များသည် တတ်နိုင်သမျှ ကိုယ်စွမ်းဉာဏ်စွမ်းနှင့် ဆောင်ရွက်ခဲ့ခြင်းဖြစ်၍ အဖွဲ့ဝင်

**၁၈။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hi Star Co., Ltd. မှ BOT စနစ်ဖြင့် ခေတ်မီ (၄) ထပ်စီးပွားရေးအဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်းဝန်ဆောင်မှု လုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးရဲနိုင်စိုးက မိမိတို့ကုမ္ပဏီအနေဖြင့် ပဲခူးတိုင်းဒေသကြီး၊ ဖြူးမြို့နယ်ရှိ ပို့ဆောင်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေပေါ်တွင်BOT စနစ်ဖြင့် ခေတ်မီ (၄) ထပ် စီးပွားရေးအဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆိုပြုချက်တင်ပြခြင်းဖြစ်ကြောင်း၊Junction လုပ်ငန်း၏ လုပ်ငန်းခွဲအနေဖြင့် ဖြူးမြို့တွင် ဆောင်ရွက်ခြင်းဖြစ်ကြောင်း၊ ဒေသခေတ်မီဖွံ့ဖြိုးရန်အတွက် Mini-Theatre များ ထည့်သွင်းဆောင်ရွက်ထားကြောင်း၊ ဝန်ထမ်းများ၏ ၈၀%ကို ဒေသခံများခန့်အပ်မည်ဖြစ်ကြောင်းနှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hi Star Co., Ltd. မှ BOT စနစ်ဖြင့် ခေတ်မီ (၄) ထပ်စီးပွားရေးအဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်းဝန်ဆောင်မှု လုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၁၉။ Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက မိမိတို့ကုမ္ပဏီအနေဖြင့် မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာဇံမြို့နယ်၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနပိုင်မြေ တွင် BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းဖြစ်ကြောင်း၊ ဟိုတယ်အတွင်းပိုင်းပြင်ဆင်မှုအနေဖြင့် Index Brand Furniture

များကိုအသုံးပြုမည်ဖြစ်ကြောင်းနှင့် ဆောင်ရွက်မည့်လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင်BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီး ဌာနမှ တစ်ဆင့်အဆိုပြုချက် တင်ပြခြင်းကိစ္စအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၂၀။ Pearl Gabar Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ တောင်ဘ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၅၃၄)၊ ကျောက်စစ်ကန်ကွင်း၊ ဦးပိုင်အမှတ် ၃၁/၄၊ ၃၁/၆ နှင့် ၃၁/၇ ရှိ စုစုပေါင်း မြေဧရိယာ (၁၁.၅၃) ဧကတို့တွင် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက အမှာစာပါ အကြောင်းအရာအား ဖော်ပြလျှက် အဓိကအချက်များကို ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက မိမိတို့ကုမ္ပဏီအနေဖြင့်မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ် ရှိ စုစုပေါင်း မြေဧရိယာ(၁၁.၅၃)ဧကတို့တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုချက် တင်ပြခြင်းဖြစ်ကြောင်း၊ စုစုပေါင်းမတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၈၀၀ သန်း အပါအဝင် စုစုပေါင်း ကျပ် ၄၁၈၀.၀၇ သန်းဖြစ်ကြောင်း နှင့် ဆောင်ရွက်မည့် လုပ်ငန်းစဉ်များကို power point ဖြင့် ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ Pearl Gabar Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၅၃၄)၊ ကျောက်စစ်ကန်ကွင်း၊ ဦးပိုင်အမှတ် ၃၁/၄၊ ၃၁/၆ နှင့် ၃၁/၇ ရှိ စုစုပေါင်း မြေဧရိယာ (၁၁.၅၃) ဧကတို့တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန် ဆုံးဖြတ်ပါသည်။

**၂၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုမိန့် ထုတ်ပေးခွင့်ပြုပါရန်ကိစ္စ**

ကော်မရှင်အတွင်းရေးမှူး ညွှန်ကြားရေးမှူးချုပ် ဦးအောင်နိုင်ဦးက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလျှောက်ထားလာသည့် လုပ်ငန်းများမှာ စိုက်ပျိုးရေး

| | ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|---|
| | ဖြင့် Conducting services, studies, engineering, lifting and relocation of infrastructure components လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဍ) | Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မန္တလေးတိုင်းဒေသကြီး၊ မတ္တရာမြို့နယ်၊ ဗိုလ်တေဇ ရပ်ကွက်နှင့် မန္တလေးတိုင်းဒေသကြီး၊ ရမည်းသင်းခရိုင်၊ ရမည်းသင်း မြို့နယ်၊ သင်ပန်းကုန်းရပ်ကွက်တို့တွင် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်း နှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဎ) | M-Development Corporation Co., Ltd. မှ မန္တလေးတိုင်း ဒေသကြီး၊ ပြည်ကြီးတံခွန်မြို့နယ်တွင် BOT စနစ်ဖြင့် ချမ်းမြရွှေပြည် ခရီးသည်တင် ယာဉ်ရပ်နားစခန်းအား အဆင့်မြှင့်တင် တည်ဆောက် ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဏ) | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Hi Star Co., Ltd. မှ BOT စနစ်ဖြင့် ခေတ်မီ (၄) ထပ်စီးပွားရေးအဆောက်အဦ ဆောက်လုပ်၍ ငှားရမ်းခြင်းဝန်ဆောင်မှု လုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့် ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (တ) | Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်း ဒေသကြီးတွင် BOT စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |

| ဆုံးဖြတ်ချက်များ | ဆောင်ရွက်ရန် |
|---|---|
| ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကိစ္စအား ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | |
| (ထ) Pearl Gabar Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ညောင်ဦးခရိုင်၊ ညောင်ဦးမြို့နယ်၊ တောင်ဘကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၅၃၄)၊ ကျောက်စစ်ကန်ကွင်း၊ ဦးပိုင်အမှတ် ၃၁/၄၊ ၃၁/၆ နှင့် ၃၁/၇ ရှိ စုစုပေါင်း မြေဧရိယာ (၁၁.၅၃) ဧကတို့တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုရန်နှင့် ခွင့်ပြုမိန့်ထုတ်ပေးရန်။ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |
| (ဒ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြ လျှောက်ထားလာသည့် အောက်ပါ လုပ်ငန်းများဖြစ်သော စိုက်ပျိုးရေး ကဏ္ဍမှ ၁ ခု၊ မွေးမြူရေး ကဏ္ဍမှ ၁ ခု၊ စက်မှုကဏ္ဍမှ ၇ ခု နှင့် အခြား ဝန်ဆောင်မှုကဏ္ဍမှ ၃ ခု၊ စုစုပေါင်းကဏ္ဍ ၁၂ ခုတို့အား အတည်ပြုမိန့် ထုတ်ပေးရန် ဆုံးဖြတ်ပါသည်-<br>(က) Golden Seafood Production Co., Ltd.<br>(ခ) Myanmar Golden Produce Co., Ltd.<br>(ဂ) The Grand Manufacturing Co., Ltd.<br>(ဃ) Myfood Industries Myanmar Co., Ltd.<br>(င) Asdet (Myanmar) Garment Co., Ltd.<br>(စ) Yangon Sponge Co., Ltd.<br>(ဆ) Myanmar Recycles Co., Ltd.<br>(ဇ) BSK Leather Myanmar Co., Ltd.<br>(ဈ) Amity (Myanmar) Lingerie Co., Ltd.<br>(ည) Paradiso Cinemas Co., Ltd. (ဘိုကလေးမြို့နယ်)<br>(ဋ) Paradiso Cinemas Co., Ltd. (မအူပင်မြို့နယ်) | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
# မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ဦး ၆ (၃၁၆)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန် လ ၂၂ ရက်




သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇ - ၄- ၂၀၁၇ )ရက်စွဲပါစာအမှတ်၊ မရက- ၄ / မ - ၁၄၉၉ / ၂၀၁၇ ( ၃၂၆)

၁။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် ချမ်းအေးသာစံမြို့နယ်၊ ၂၈ လမ်း၊ ၇၇× ၇၈ လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃ပေ× အနံ ၁၀၀ပေ)ရှိ မြေဧရိယာ (၀.၂၅၉၅) ဧကအား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော်က ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားကို ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd မှ အဆိုပါ မြေနေရာတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော်က ဆောင်ရွက်မည့်အပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂/၆/၁၇

ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

tt78

113-422
29/6



226-112
29/6

35 6
30/6/17

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၇(၁၇၈၆)
ရက် စွဲ၊ ၂ ၀ ၁ ၇ ခုနှစ်၊ ဇွန်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ (၁၁)ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၄၉၉/ ၂၀၁၇ (၃၃၉)

၁။ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေ (အလျား ၁၁၃'× အနံ ၁၀၀')၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့်ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မြန်မာ့မီးရထားမှ သက်ဆိုင်ရာ Sakura Construction Group Co., Ltd သို့ အကြောင်းကြားခဲ့ရာ ကုမ္ပဏီမှ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အောက်ပါအတိုင်း ပြန်လည်တင်ပြလာပါသည်-

(က) သက်ဆိုင်ရာ Sakura Construction Group Co., Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများ၊ အသုံးပြုမည့် ပစ္စည်းများနှင့် ဝန်ဆောင်မှုပေးအပ်ခြင်းကို သင့်တင့်စွာဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

(ခ) Car Parking ကိုလည်း မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ညှိနှိုင်းဆောင်ရွက်ပြီး သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ လုံလောက်စွာ ထည့်သွင်းတည်ဆောက်ပေးမည်ဖြစ်ပါကြောင်း။

(ဂ) ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီး

သွားလာရေးဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာအမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက် စံနှုန်းများနှင့်အညီ စည်းကမ်းတကျ လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း။

(ဃ) ဟိုတယ်ဝန်ထမ်းများကိုလည်း ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းဆင်း လက်မှတ်ရရှိသူများကို ခန့်အပ်မည်ဖြစ်ပြီး ဝန်ဆောင်မှုပေးရာတွင် လိုအပ်သည့် ယစ်မျိုးလိုင်စင်အားလည်း လျှောက်ထားဆောင်ရွက်မည်ဖြစ်ပါကြောင်း။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်အား ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေ (အလျား ၁၁၃'× အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်အား ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း သက်ဆိုင်ရာ ကုမ္ပဏီမှ မြန်မာ့မီးရထားသို့ တင်ပြထားရှိမှုအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲ** (၂)ရွက်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
မြန်မာ့မီးရထား
ရုံးလက်ခံ
မျှောစာတွဲ




# SAKURA CONSTRUCTION GROUP CO.,LTD

*Cherry Garden City, 14/3 Ward , South Okkalapa*
*Yangon, Myanmar.*
*Tel: +95 1 8500687 , Fax: 95 1 569073*
*Email: scgsakura1@gmail.com*


ဝင်စာမှတ်ပုံတင်
ဝင်စာအမှတ်စဉ် ၂၈၃၉
ရက် ၁၆.၆.၁၇
၉.၃၀

စာအမှတ်၊ ၀၅/၀၆/SCG/၂၀၁၇

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ၊ ( ၁၂ )ရက်။

သို့

အထွေထွေမန်နေဂျာ (စီးပွားရေးရုံး)

မြန်မာ့မီးရထား

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

နေပြည်တော်။

**အကြောင်းအရာ ။ ။ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည့် အစီအစဉ်ကို ပေးပို့ခြင်း။**

**ရည်ညွှန်းချက် ။ ။ (၁) မြန်မာ့မီးရထား၊ စီးပွားရေးဌာန၏ (၂၇-၄-၂၀၁၇) ရက်စွဲပါ စာအမှတ် စီးပွား (စမ-၈) (၇၅၂/၂၀၁၇) ဆာကူရာ**

**(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၄-၂၀၁၇) ရက်စွဲပါ စာအမှတ် မရက-၄/မ-၁၄၉၉/၂၀၁၇ (၃၃၉)**

အထက်ပါအကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီမှ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈) လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက်အနောက်ဘက်ရှိ မြေ (အလျား ၁၁၃ပေ × အနံ ၁၀၀ပေ = ၁၁၃၀၀ စတုရန်းပေ) (၀. ၂၅၉၅ ဧက) ပေါ်တွင် BOT စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက်ကို ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်အား တင်ပြခြင်း။

(က) Sakura Construction Group Co., Ltd. မှ ငှားရမ်းမည့် အခန်းခ နှုန်းထားများ၊ အသုံးပြုမည့် ပစ္စည်းများနှင့် ဝန်ဆောင်မှုပေးအပ်ခြင်းကို ဈေးနှုန်းသင့်တင့်စွာဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ခ) Car Parking ကိုလည်း မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီနှင့် ညှိနှိုင်းဆောင်ရွက်ပြီး သတ်မှတ်စံချိန်စံညွှန်းများနှင့် အညီ လုံလောက်စွာ ထည့်သွင်းတည်ဆောက်ပေးမည်ဖြစ်ပါသည်။

(ဂ) ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေးဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာ အမိန့်များတွင် ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာ အခြေခံလိုအပ်ချက်စံနှုန်းများနှင့်အညီ စည်းကမ်းတကျ လိုက်နာဆောင်ရွက်ပါမည်။

(ဃ) ဟိုတယ်ဝန်ထမ်းများကိုလည်း ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ် ရရှိသူများကို ခန့်အပ်မည်ဖြစ်ပြီး၊ ဝန်ဆောင်မှုပေးရာတွင် လိုအပ်သည့် ယစ်မျိုးလိုင်စင်အားလည်း လျှောက်ထားဆောင်ရွက်မည်ဖြစ် ပါသည်။

စာမျက်နှာ - ၂ - သို့

(c) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေနှင့် အညီ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်အား ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထား သွားမည်ဖြစ်ကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Htay Aung
President
Sakura Construction Group Co., Ltd.

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး မြန်မာ့မီးရထား
- ရုံးလက်ခံ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၇(၁၅၈၈)

ရက် စွဲ၊ ၂ ၀ ၁ ၇ ခုနှစ်၊ ဇွန်လ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဧပြီလ (၁၁)ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၄၉၉/ ၂၀၁၇ (၃၄၀)

၁။ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေ (အလျား ၁၁၃'× အနံ ၁၀၀')၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်းနှင့်ပတ်သက်၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မြန်မာ့မီးရထားမှ သက်ဆိုင်ရာ Sakura Construction Group Co., Ltd သို့ အကြောင်းကြားခဲ့ရာ ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့်အစီအစဉ်အား Sakura Construction Group Co., Ltd ၏ ကိုယ်စား AMK & Associates(EIA Consulting)သို့ ရေးဆွဲတင်ပြရန် စီစဉ်ထားပြီး ရက်ပေါင်း(၆၀)အတွင်း အပြီးအစီးတင်ပြပေးမည်ဖြစ်ပါကြောင်းနှင့် အဆိုပြုချက်တွင် ဖော်ပြထားသည့် CSR အတွက် အသားတင်အမြတ်ငွေ၏ (၂)% အသုံးပြုဆောင်ရွက်ပေးသွားမည့် အစီအစဉ်ကို တိကျစွာလိုက်နာသွားမည်ဖြစ်ပါကြောင်းကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြထားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေ (အလျား ၁၁၃'× အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်အား သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ ရက်ပေါင်း(၆၀)အတွင်း အပြီးအစီးတင်ပြပေးမည်ဖြစ်ပါကြောင်းနှင့်

အဆိုပြုချက်တွင် ဖော်ပြထားသည့် CSR အတွက် အသားတင်အမြတ်ငွေ၏ (၂)% အသုံးပြုဆောင်ရွက်ပေးသွားမည့် အစီအစဉ်ကို တိကျစွာလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း သက်ဆိုင်ရာ ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြထားရှိမှုအား သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲ** (၁)ရွက်

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သူရအောင်မျိုးမြင့်-ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
မြန်မာ့မီးရထား
ရုံးလက်ခံ
မျှောစာတွဲ




# SAKURA CONSTRUCTION GROUP CO.,LTD

Cherry Garden City, [illegible] Ward, [illegible]
Yangon, Myanmar
Tel: +95 1 [illegible], Fax: 95 1 [illegible]
Email: [illegible]


စာအမှတ်၊ ၀၅/၀၆/SCG/၂၀၁၇

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဇွန်လ ( [illegible]

သို့

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန
နေပြည်တော်။

**အကြောင်းအရာ ။ ။ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်ကို ပေးပို့ခြင်း။**

**ရည်ညွှန်းချက် ။ ။ (၁) မြန်မာ့မီးရထား၊ စီးပွားရေးဌာန၏ (၂၇-၄-၂၀၁၇) ရက်စွဲပါ စာအမှတ် စီးပွား (စမ-၈) (၇၅၁/၂၀၁၇) ဆာကူရာ**

**(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁-၄-၂၀၁၇) ရက်စွဲပါ စာအမှတ် မရက-၄/မ-၁၄၉၉/၂၀၁၇ (၃၄၀)**

အထက်ပါအကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီမှ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈) လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက်အနောက်ဘက်ရှိ မြေ (အလျား ၁၁၃ပေ × အနံ ၁၀၀ပေ = ၁၁၃၀၀ စတုရန်းပေ) (၀. ၂၅၉၅ ဧက) ပေါ်တွင် BOT စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက်ကို ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ သယံဇာတနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ လိုက်နာဆောင်ရွက်မည့် အစီအစဉ်အား ဤကုမ္ပဏီကိုယ်စား AMK & Associates (EIA Consulting) သို့ ရေးဆွဲတင်ပြရန် စီစဉ်ထားပြီး၊ ရက်ပေါင်း (၆၀)အတွင်းအပြီးအစီး တင်ပြပေးမည် ဖြစ်ပါသည်။

အဆိုပြုလွှာတွင် ဖော်ပြထားသည့် CSR အတွက် အသားတင်အမြတ်ငွေ၏ ၂% အသုံးပြုဆောင်ရွက်ပေးသွားမည့် အစီအစဉ်ကို တိကျစွာ လိုက်နာသွားမည် ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Htay Aung
President
Sakura Construction Group Co., Ltd.

မိတ္တူကို

- အထွေထွေမန်နေဂျာ (စီးပွားရေးရုံး) မြန်မာ့မီးရထား
- ရုံးလက်ခံ

Sakura Construction Group Co., Ltd. မှ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂-၁၂-၂၀၁၆ | | |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | | | |
| | (၁)ပထမအကြိမ် | ၁၅-၃-၂၀၁၇ | | မန္တလေးတိုင်းဒေသကြီး မှ သဘောထား ကို ၂၆-၆-၂၀၁၇ နေ့တွင်မှ ရရှိသဖြင့် ကော်မရှင်သို့ တင်ပြရာ တွင် နောက်ကျခြင်း ဖြစ်ပါသည်။ |
| | (၂)ဒုတိယအကြိမ် | ၇-၄-၂၀၁၇ | | |
| | (၃)တတိယအကြိမ် | ၃-၅-၂၀၁၇ | | |
| | (၄)စတုတ္ထအကြိမ် | ၂၃-၅-၂၀၁၇ | | |
| | (၅)ပဥ္စမအကြိမ် | ၁၃-၆-၂၀၁၇ | ၂၆-၆-၂၀၁၇ | |
| | (ခ) သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၁၅-၃-၂၀၁၇ | ၄-၄-၂၀၁၇ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန | ၁၅-၃-၂၀၁၇ | ၅-၄-၂၀၁၇ | |
| | (ဃ) မန္တလေးမြို့တော်စည်ပင်သာယာရေး ကော်မတီ | ၁၅-၃-၂၀၁၇ | ၁၀-၄-၂၀၁၇ | |
| ၃။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၃/၂၀၁၇) အစည်းအဝေး သို့ ပထမအကြိမ် တင်ပြခြင်း | ၁၆-၁-၂၀၁၇ | | |
| ၄။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ (၁/၂၀၁၇) အစည်းအဝေး ဆုံးဖြတ်ချက် နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၆-၁-၂၀၁၇<br>၁၅-၂-၂၀၁၇<br>၂၈-၂-၂၀၁၇ | ၆-၃-၂၀၁၇<br>၁၅-၃-၂၀၁၇ | အဆိုပြုချက် စိစစ်ရေး အဖွဲ့ ဆုံးဖြတ်ချက် နှင့် အညီ (၃၉)ရက်ကြာမှ ကုမ္ပဏီမှ တင်ပြလာသဖြင့် သဘောထားများကို ၁၅-၃-၂၀၁၇ ရက်နေ့တွင် တောင်းခံရပါသည်။ |
| ၅။ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆွေးနွေးချက်အရ လိုအပ်ချက်များ တောင်းခံခြင်း | ၂-၂၂၀၁၇<br>၂၈-၂-၂၀၁၇ | ၆-၃-၂၀၁၇<br>၁၅-၃-၂၀၁၇ | |
| ၆။ | ပတ်ဝန်းကျင် နှင့် ဟိုတယ်ခရီး သဘောထား မှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်ရန် အကြောင်းကြားခြင်း | ၁၁-၄-၂၀၁၇ | ၂၉-၆-၂၀၁၇ | |
| ၇။ | အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၄-၇-၂၀၁၇ | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | (၂၁၀)ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Sakura Construction Group Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | B.O.T စနစ်ဖြင့် Basement အပါအဝင် အထပ်(၁၁)ထပ်ရှိ အခန်း (၁၆၁)ခန်းပါ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - | ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊(၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ မြေဧရိယာ ၀.၂၅၉၅ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | စုစုပေါင်း ကျပ် ၁၀၀၀၀.၀၀ သန်း |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၃၀ နှစ်၊ ၅ နှစ် ၂ ကြိမ် သက်တမ်းတိုး |
| အရင်းကြေကာလ | - | ၁၂ နှစ်၊ ၂ လ |
| IRR | - | ၂၁ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃၀.၀၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၇ သန်း |
| ၃ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၇၉၆.၅၁ သန်း |
| ၄ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၅ | ဝင်ငွေခွန် | ကျပ် ၁၂၉၆.၇၈ သန်း | ကျပ် ၁၇၆၈.၂၆ သန်း |
| ၆ | လျှပ်စစ်ဓါတ်အားသုံးစွဲခ | | ကျပ် ၅၁.၀၁ သန်း |
| ၇ | CSR (၂%) | | ကျပ် ၁၀၃.၇၄ သန်း |
| ၈ | မြေအသုံးချမှုပရီမီယံကြေး | | ကျပ် ၂၅၀.၀၀သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၄၉ ဦး |
| ၁၀ | | | ပြည်တွင်းလုပ်သား (၁၄၉) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြု စေပါသည်။ |
| ၁၁ | | **ကျပ် ၁၃၂၆.၇၈ သန်း** | **ကျပ် ၂၉၇၁.၀၉ သန်း** |
| | **Cost : Benefit** | **၁ : ၂** | |

## Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Sakura Construction Group Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဌေးအောင်<br>- ဥက္ကဋ္ဌ |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် Basement အပါအဝင် အထပ်(၁၁)ထပ်ရှိ အခန်း(၁၆၁)ခန်းပါ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ (၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက် |
| | မြေအကျယ်အဝန်း | - ၀.၂၅၉၅ ဧက (အလျား ၁၁၃' x အနံ ၁၀၀' = ၁၁၃၀၀ စတုရန်းပေ) |
| | မြေပိုင်ရှင် | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထား |
| | မြေငှားရမ်းခနှုန်း | - တစ်နှစ် တစ်စတုရန်းပေလျှင် ကျပ် ၁၀,၆၁၉ နှုန်း ဖြင့် ငှားရမ်းမည်ဖြစ်ပါ သည်။ |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - **ကျပ် ၁၀၀၀၀.၀၀ သန်း** [ကိုယ်ပိုင် မတည်ငွေ ကျပ် ၂၀၀၀ သန်း (၂၀%) နှင့် ချေးငွေ ကျပ် သန်း ၈၀၀၀ (၈၀%)] |
| ၆။ | တည်ဆောက်ရေးကာလ | - ၁၈ လ |
| ၇။ | ပဏာမစူးစမ်းလေ့လာမှုကာလ | - ၁ နှစ် ခန့် |
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦးနှစ် ၃၀ နှင့် နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းမည်ဖြစ်ပါသည်။ |
| ၉။ | ဝန်ဆောင်မှု (၆)နှစ်မြောက် | |

(အမှတ် ၅ ခွဲခြမ်းစိတ်ဖြာချက်)

| | | **ကျပ်သန်းပေါင်း** |
|---|---|---|
| ငွေပမာဏ | - | ၂၅၈.၃၃ |
| တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများ | - | ၇၅၇၈.၀၂ |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်းနှင့် ရုံးသုံးပစ္စည်းများ | - | ၁၇၁၃.၆၄ |
| မော်တော်ယာဉ်များ | - | ၂၀၀.၀၁ |
| မြေအသုံးချမှုပရီမီယံ | - | ၂၅၀.၀၀ |
| **စုစုပေါင်း** | | **၁၀၀၀၀.၀၀** |

(အမှတ် ၉ ဝန်ဆောင်မှု (၆)နှစ်မြောက်)

| စဉ် | အမျိုးအစား | အခန်း အရေ အတွက် (ခန်း) | ဝန်ဆောင်မှု ပေးမည့် အခန်း (Occu-pancy Rate %) | ဝန်ဆောင် ခနှုန်း (တစ်ရက်/ တစ်ခန်း) (ကျပ်) |
|---|---|---|---|---|
| (က) | Suite Room | ၁၄ | ၆၂ | ၁၁၅,၀၀၀ |
| (ခ) | Standard Room | ၁၄၇ | ၆၂ | ၇၅,၀၀၀ |
| | **စုစုပေါင်း** | ၁၆၁ | | |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ(၆)နှစ်မြောက် ဝင်ငွေအား ကောက်နုတ်တင်ပြထားခြင်း ဖြစ်ပါသည်။ | - ကျပ် ၃၄၃၁.၁၆ သန်း |
| ၁၁။ | အသားတင်အမြတ် | - ကျပ် ၈၈၆.၂၂ သန်း |
| ၁၂။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၂၉၅.၄၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၇၁.၅၆ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား | **- ၁၄၉ ဦး** |
| | ပြည်တွင်း | - ၁၄၉ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၂၅,၀၀၀ ၊ အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - မရှိပါ။ |
| ၁၄။ | အရင်းကြေကာလ | - ၁၂ နှစ် နှင့် ၂ လ |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၁ % |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထားအဖြစ် Sakura Construction Group Co., Ltd. အမည်ဖြင့် Global Treasure Bank တွင် ၂၀၁၇ ခုနှစ်၊ ဇွန် ၁၆ ရက်နေ့ရှိ ငွေလက်ကျန် ကျပ် ၆၀၁,၃၀၉,၈၇၅ ရှိကြောင်း တင်ပြထားပါ သည်။ |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား အချိုးကျ သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အား | - ၄၀၀ kvA |
| ၁၉။ | အခြားတင်ပြချက်များ | (က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား ပိုင် မြေလွတ်(၁၉)ကွက်အား ထိရောက်စွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေ တိုးတက်ရရှိစေရန် ပြည်တွင်း လုပ်ငန်းရှင် များကို တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စု အစိုးရ အဖွဲ့ စီးပွားရေးရာကော်မတီ၏ ၁၉/၂၀၁၃ (၁၃-၁၁-၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံ တင်ပြခဲ့ ပြီး ပြည်နယ်/ တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူရန် လမ်းညွှန်ခဲ့ပြီး နိုင်ငံတော် သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက် ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါကြောင်း။<br>(ခ) မန္တလေး ဘူတာကြီးနယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်း လုပ်ငန်းရှင်များနှင့် ပူးပေါင်း၍ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်း လုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်း ဒေသကြီး အစိုးရ အဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူ ဆောင်ရွက်ခဲ့ပါကြောင်း။<br>(ဂ) တင်ဒါစိစစ်ရွေးချယ်ရေး ကော်မတီ၏ အတည်ပြုချက်အရ မန္တလေး တိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇x၇၈) |

| | | |
|---|---|---|
| | | လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက် ဘက်ရှိ မြေလွတ် (အလျား ၁၁၃' x အနံ၁၀၀'= ၁၁၃၀၀ စတုရန်းပေ) တွင် ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခြင်း အတွက် Sakura Construction Group Co., Ltd.နှင့် စာချုပ်ချုပ်ဆိုခြင်းလုပ်ငန်း ဆောင်ရွက်ရန် ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ အမှုဆောင် ကော်မတီ၏ ၃၄/၂၀၁၄ ကြိမ်မြောက် အစည်း အဝေးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါကြောင်း။<br>(ဃ) မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ Sakura Construction Group Co., Ltd. သို့ BOT စနစ်ဖြင့် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းဖြစ်ပါကြောင်း။ |
| ၂၀။ | B.O.Tစာချုပ်(မူကြမ်း)ပါအဓိက အချက်များ | - ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် နှင့်အညီ ချုပ်ဆိုမည့် BOTစာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(က) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀) နှင့် နှစ်ဖက် ညှိနှိုင်း၍ မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ် နှစ်ကြိမ်သက်တမ်း တိုးမြှင့်ငှားရမ်းမည် ဖြစ်ပါသည်။ **အပိုဒ်-၂(က)**<br>(ခ) Sakura Construction Group Co., Ltd. သည် မြေကို လွှဲပြောင်း လက်ခံရရှိသည့်နေ့မှစ၍ အဆောက်အဦကို ၁၈ လအတွင်း အပြီးသတ် တည်ဆောက် ရမည်ဖြစ်ပြီး တည်ဆောက်ပြီးစီးခြင်း မရှိပါက ၁၈ လ ပြည့်သည့် နေ့မှစ၍ လစဉ် သတ်မှတ်ထားသော ငှားရမ်းခများကို ပေးသွင်းရမည် ဖြစ်ပါသည်။ မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ် ရေးထိုးသည့် နေ့မှစ၍ နှစ်(၃၀) ရေတွက်မည် ဖြစ်ပါသည်။ **အပိုဒ်-၂(ခ)**<br>(ဂ) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သိန်း ၂၅၀၀ အား မြန်မာ့ မီးရထားသို့ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း အပြီးအပြတ် အကြေ ပေးသွင်းရမည် ဖြစ်ပါသည်။ **အပိုဒ်-၃**<br>(ဃ) ငှားရမ်းမည့်မြေ ၀.၂၅၉၅ ဧက(၁၁၃၀၀ စတုရန်းပေ)အတွက် နှစ်စဉ် မြေငှားရမ်းခ အဖြစ် တစ်နှစ်လျှင် ကျပ်သိန်း ၁၂၀၀ နှုန်းဖြင့် **(တစ်နှစ် တစ်ဧကလျှင် ကျပ် ၄၆၂၅.၈၄ သိန်းနှုန်း/ တစ်စတုရန်းပေလျှင် ကျပ် ၁၀,၆၁၉ နှုန်း)** တစ်ဖက်ပါအတိုင်း |

| | | |
|---|---|---|
| | | ပေးသွင်းရမည်ဖြစ်ပါသည်- **အပိုဒ်-၄(က၊ခ)**<br>(၁) စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အဆောက်အဦ တည်ဆောက်ချိန် (၁၈)လပြည့်ပြီး ရက်ပေါင်း(၃၀)အတွင်း နှစ်စဉ် ငှားရမ်းခဖြစ်သော ပထမ(၆)လအတွက် ကျပ်သိန်း ၆၀၀ ကို ပေးသွင်းရန်။<br>(၂) ပထမအရစ် ပေးသွင်းပြီး (၆)လ ပြည့်ချိန်တွင် ဒုတိယ အရစ်အဖြစ် ဒုတိယ (၆)လ အတွက် ကျပ်သိန်း ၆၀၀ ကိုပေးသွင်းရန်။<br>(၃)ကျန်နောက်နှစ်များတွင် နှစ်စဉ် သတ်မှတ်ထားသည့် ငှားရမ်းခ ကို (၆)လလျှင် (၁)ကြိမ်၊ တစ်နှစ်(၂)ကြိမ် ခွဲ၍ ပေးသွင်းရန်။<br>(ဂ) နှစ်စဉ် မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် နှစ်ဖက် ပြန်လည် ညှိနှိုင်း သုံးသပ်ရမည်။ ငှားရမ်းခ ထပ်မံတိုးမြှင့် မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၀% ထက် မကျော်လွန်စေရပါ။ **အပိုဒ်-၄(ဂ)**<br>(စ) ငှားရမ်းကာလ နှစ် ၃၀ ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါဖြစ်စေ (၃)လအတွင်း Sakura Construction Group Co., Ltd. သည် မြေနှင့်တကွ အဆောက်အအုံ အပါအဝင် အဆောက်အအုံ နှင့် ဆက်စပ်ပတ်သက်သော ပစ္စည်းအားလုံးကို ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေ အတိုင်း မြန်မာ့မီးရထားသို့ အဖိုးစားနားမဲ့ ပြန်လည် လွှဲပြောင်း ပေးရမည်ဖြစ်ပါသည်။ **အပိုဒ်-၉** |
| ၂၀။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) Sakura Construction Group Co., Ltd. သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် အတွက် ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂၅ ရက်နေ့တွင် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ လမ်းပန်း ဆက်သွယ်ရေးဝန်ကြီးဌာန ထံမှ တင်ဒါအောင်မြင်ခဲ့ခြင်း ဖြစ်ပါသည်။<br>(ခ) Sakura Construction Group Co., Ltd. သည် အခန်း ၁၆၁ ခန်းပါ Basement အပါအဝင် အထပ် ၁၁ ထပ် ရှိ ဟိုတယ်အား တည်ဆောက်မည် ဖြစ်ပြီး Basement တွင် ကား ၂၂ စီးရပ်နားနိုင်မည် ဖြစ်ပါသည်။<br>(ဂ) အဆိုပြု လုပ်ငန်း၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် Sakura Construction Group Co., Ltd.မှ ကိုယ်ပိုင်မတည်ငွေ ကျပ် ၂၀၀၀.၀၀ သန်း (၂၀%) နှင့် ချေးငွေ ကျပ် သန်း ၈၀၀၀ (၈၀%) ပါဝင် ကြောင်း စိစစ်တင်ပြအပ်ပါသည်။<br>(ဃ) Sakura Construction Group Co., Ltd. မှ အဆိုပြု လုပ်ငန်းအတွက် ပစ္စည်း ဝယ်ယူမှု နှင့်ပတ်သက်ပြီး Project |

Financing Loan အနေဖြင့် Construction လုပ်ငန်းများ လုပ်ကိုင် ဆောင်ရွက်ရာတွင် မိမိတို့ဘဏ် အနေဖြင့် ဘဏ်၏ လုပ်ထုံးလုပ်နည်းများအတိုင်း Sakura Construction Group Co., Ltd. မှ တင်ပြလာသော ပိုင်ဆိုင်မှုကို စိစစ်၍ ဘဏ်ချေးငွေ ထုတ်ပေးမည်ဖြစ်ကြောင်း Global Treasure Bank (Public Company Limited) မှ တင်ပြထားပါသည်။

(င) မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံ မြို့နယ်၊ ၇၉ လမ်း၊ ပါဆယ်(၂)ဝင်း မြေလွတ်ရှိမြေ (အလျား ၈၀၀' x အနံ ၄၀') ၀.၇၃၄၆ ဧကအား တစ်နှစ် တစ်စတုရန်းပေလျှင် ၂၄၀၀၀ ကျပ်နှုန်းဖြင့် Myanmar Mandalay Co., Ltd. သို့ ငှားရမ်း၍ B.O.T စနစ်ဖြင့် အခန်း(၅)ခန်းပါ RC(၄)ထပ်တိုက်(၈)လုံး တည်ဆောက်၍ ခေတ်မီရုံးခန်း နှင့် ဈေးဆိုင်ခန်းများ ပါဝင်သည့် အဆောက်အဦများ တည်ဆောက်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ရန်ကော်မရှင်မှ မနသ-၁၀၉၄/၂၀၁၆ (၂၁-၃-၂၀၁၆)ဖြင့် ခွင့်ပြုခဲ့ပါသည်။

(စ) ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်မည့် မြေ ၀.၂၅၉၅ ဧက (၁၁၃၀၀စတုရန်းပေ)အတွက် နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်နှစ် တစ်စတုရန်းပေလျှင် ကျပ် ၁၀,၆၁၉ နှုန်း ဖြင့် ငှားရမ်းမည်ဖြစ်ပါသည်။

(ဆ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဇ) ရင်းနှီးမြှုပ်နှံမှု နှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒ နှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက- ၄/မ-၁၄၉၉/၂၀၁၇( ၄၉၈ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇွန် လ ၃၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်း ဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့ မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ ဧရိယာ ၀.၂၅၉၅ ဧက (အလျား ၁၁၃' x အနံ ၁၀၀' = ၁၁၃၀၀ စတုရန်းပေ)အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဌေးအောင် မှ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး(၃၀)နှစ်ဖြစ်ပြီး နောက်ထပ် (၅)နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်မည် ဖြစ်ပါသည်။ တည်ဆောက်ရေး ကာလမှာ ၁၈ လ ဖြစ်ပြီး ပဏာမ စူးစမ်းလေ့လာမှုကာလမှာ (၁)နှစ်ခန့် ဖြစ်ပါသည်။

၃။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တင်ပြချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အား ထိရောက်စွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေ တိုးတက်ရရှိစေရန် ပြည်တွင်း လုပ်ငန်းရှင်များကို တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စု အစိုးရအဖွဲ့ စီးပွားရေးရာ ကော်မတီ၏ ၁၉/၂၀၁၃ (၁၃-၁၁-၂၀၁၃) အစည်းအဝေးသို့ တင်ပြခဲ့ရာ နိုင်ငံတော် သမ္မတကြီးထံ တင်ပြခဲ့ပြီး ပြည်နယ်/ တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူရန် လမ်းညွှန်ခဲ့ပြီး နိုင်ငံတော် သမ္မတရုံး မှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါကြောင်း။

(ခ) မန္တလေး ဘူတာကြီးနယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်း လုပ်ငန်းရှင်များနှင့် ပူးပေါင်း၍ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်း လုပ်ကိုင် နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူ ဆောင်ရွက်ခဲ့ပါကြောင်း။

(ဂ) တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေး တိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက ရှိ မြေလွတ် အလျား ၁၁၃' x အနံ ၁၀၀'=၁၁၃၀၀ စတုရန်းပေတွင် ဟိုတယ်အဆောက် အဦ ဆောက်လုပ်ခြင်းအတွက် Sakura Construction Group Co., Ltd.နှင့် စာချုပ် ချုပ်ဆိုခြင်းလုပ်ငန်း ဆောင်ရွက်ရန် ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ၏ ၃၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါကြောင်း။

(ဃ) မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ Sakura Construction Group Co., Ltd. သို့ BOT စနစ်ဖြင့် အကျိုးတူ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းဖြစ်ပါကြောင်း။

၄။ ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက် နှင့်အညီ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀) နှင့် နှစ်ဖက် ညှိနှိုင်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် တစ်ကြိမ်လျှင် (၅)နှစ် နှစ်ကြိမ်သက်တမ်း တိုးမြှင့် ငှားရမ်းမည် ဖြစ်ပါသည်။ **အပိုဒ်-၂(က)**

(ခ) Sakura Construction Group Co., Ltd. သည် မြေကို လွှဲပြောင်းလက်ခံ ရရှိသည့် နေ့မှစ၍ အဆောက်အဦကို ၁၈ လအတွင်း အပြီးသတ် တည်ဆောက် ရမည်ဖြစ်ပြီး တည်ဆောက်ပြီးစီးခြင်း မရှိပါက ၁၈ လပြည့်သည့် နေ့မှစ၍ လစဉ် သတ်မှတ် ထားသော ငှားရမ်းခများကို ပေးသွင်းရမည် ဖြစ်ပါသည်။ မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ နှစ်(၃၀) ရေတွက်မည်ဖြစ်ပါသည်။

**အပိုဒ်-၂(ခ)**

(ဂ) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သိန်း ၂၅၀၀ အား မြန်မာ့မီးရထားသို့ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀)အတွင်း အပြီးအပြတ် အကြေ ပေးသွင်းရမည်ဖြစ်ပါသည်။ **အပိုဒ်-၃**

(ဃ) ငှားရမ်းမည့်မြေ ၀.၂၅၉၅ ဧက(၁၁၃၀၀ စတုရန်းပေ)အတွက် နှစ်စဉ် မြေငှားရမ်းခ အဖြစ် တစ်နှစ်လျှင် ကျပ်သိန်း ၁၂၀၀ နှုန်းဖြင့် **(တစ်နှစ် တစ်ဧကလျှင် ကျပ် ၄၆၂၅.၈၄ သိန်းနှုန်း/ တစ်စတုရန်းပေလျှင် ကျပ် ၁၀,၆၁၉ နှုန်း)** တစ်ဖက်ပါအတိုင်း ပေးသွင်းရ မည် ဖြစ်ပါသည်- **အပိုဒ်-၄(က၊ခ)**

(၁) စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှစ၍ အဆောက်အဦ တည်ဆောက်ချိန် (၁၈)လ ပြည့်ပြီး ရက်ပေါင်း(၃၀)အတွင်း နှစ်စဉ် ငှားရမ်းခဖြစ်သော ပထမ(၆)လအတွက် ကျပ်သိန်း ၆၀၀ ကို ပေးသွင်းရန်။

(၂) ပထမအရစ် ပေးသွင်းပြီး (၆)လ ပြည့်ချိန်တွင် ဒုတိယအရစ်အဖြစ် ဒုတိယ (၆)လ အတွက် ကျပ်သိန်း ၆၀၀ ကိုပေးသွင်းရန်။

(၃) ကျန်နောက်နှစ်များတွင် နှစ်စဉ်သတ်မှတ်ထားသည့် ငှားရမ်းခကို (၆)လလျှင် (၁)ကြိမ်၊ တစ်နှစ်(၂)ကြိမ်ခွဲ၍ ပေးသွင်းရန်။

(င) နှစ်စဉ် မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်။ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၀% ထက် မကျော်လွန်စေရပါ။ **အပိုဒ်-၄(ဂ)**

(စ) ငှားရမ်းကာလ နှစ် ၃၀ ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသည့်အခါ ဖြစ်စေ (၃)လအတွင်း Sakura Construction Group Co., Ltd. သည် မြေနှင့်တကွ အဆောက်အအုံ အပါအဝင် အဆောက်အအုံနှင့် ဆက်စပ်ပတ်သက်သော ပစ္စည်း အားလုံးကို ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း မြန်မာ့မီးရထားသို့ အဖိုးစားနားမဲ့ ပြန်လည်လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ **အပိုဒ်-၉**

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၁၀၀၀၀.၀၀ သန်း [ကိုယ်ပိုင်မတည်ငွေ ကျပ်သန်း ၂၀၀၀(၂၀%) နှင့် ချေးငွေ ကျပ်သန်း ၈၀၀၀(၈၀%)] ဖြစ်ပါသည်။ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများ၊ ရုံးသုံးပစ္စည်းများနှင့် မော်တော်ယာဉ်များ အားလုံးကို ပြည်တွင်းမှသာ ဝယ်ယူမည်ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | **ကျပ်သန်းပေါင်း** |
|---|---|---|---|
| (က) | ငွေပမာဏ | - | ၂၅၈.၃၃ |
| (ခ) | တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ | - | ၇၅၇၈.၀၂ |
| (ဂ) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်းနှင့် ရုံးသုံးပစ္စည်းများ | - | ၁၇၁၃.၆၄ |
| (ဃ) | မော်တော်ယာဉ်များ | - | ၂၀၀.၀၁ |
| (င) | မြေအသုံးချမှုပရီမီယံ | - | ၂၅၀.၀၀ |
| | **စုစုပေါင်း** | | **၁၀၀၀၀.၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း(၁၄၉)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ အနိမ့်ဆုံးဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် ၁၂၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း (၁)ဦး၏ လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြု ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း၏ အခန်း(၁၆၁)ခန်းကို ငှားရမ်းခြင်းမှ ဝင်ငွေရရှိမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (၆)နှစ် မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်မှု ပေးမည့် အခန်း (Occupancy Rate %) | တစ်ခန်းအတွက် / တစ်ရက် ဝန်ဆောင်ခနှုန်း(ကျပ်) |
|---|---|---|---|---|
| (က) | Suite Room | ၁၄ | ၆၂ | ၁၁၅,၀၀၀ |
| (ခ) | Standard Room | ၁၄၇ | ၆၂ | ၇၅,၀၀၀ |
| | **စုစုပေါင်း** | **၁၆၁** | | |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဝင်ငွေ - ကျပ် ၃၄၃၁.၁၆ သန်း

(ခ) အသုံးစရိတ် - ကျပ် ၂၅၄၄.၉၄ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၈၈၆.၂၂ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၇၁.၅၆ သန်း၊ ဝင်ငွေခွန် ကျပ် ၂၉၅.၄၁ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၂ နှစ်နှင့် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၁ ရာခိုင်နှုန်း နှင့် CSR ၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့။** Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ ဧက)အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း။ **နောက်ဆက်တွဲ-က**

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **နောက်ဆက်တွဲ-ခ**

(၁) အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်

အဆိုပြု လွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility –CSR)အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက် ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination –IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်များ အတိုင်း အစီရင်ခံ ရေးသားတင်ပြရန်။

(၃) အထက်ပါ ဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှု အစီအစဉ် နှင့် စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) စီမံကိန်း ဆောင်ရွက်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီး ဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည် အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ပါရှိသည့် လိုက်နာဆောင်ရွက် ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက် များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက် ၍ တစ်ပါတည်း တင်ပြရန်။

**(သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်းနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း IEE နှင့် ပတ်ဝန်း ကျင် စီမံခန့်ခွဲမှု အစီ အစဥ် EMP အစီရင်ခံစာအား A.M.K and Associates (E.I.A consulting) နှင့် စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန** **နောက်ဆက်တွဲ-ဂ**

(၁) Sakura Construction Group Co., Ltd. မှ ငှားရမ်းမည့် အခန်းခန့်နှုန်းထားများတွင် Suite Room (၁)ခန်းလျှင် ကျပ် ၁၁၅၀၀၀ ၊ Standard Room (၁)ခန်းလျှင် ကျပ် ၇၅၀၀၀ စသည့် နှုန်းများဖြင့် သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများ နှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန် သင့်တင့်ပြီး ဈေးနှုန်းကျဆင်းရေး ဦးတည်ဆောင်ရွက်ရန်။

(၂) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ၏ သတ်မှတ်စံချိန်စံညွှန်းများနှင့် အညီလိုလောက်သည့် Car Parking ထည့်သွင်းတည်ဆောက်ရန်။

(၃) Sakura Construction Group Co., Ltd. မှဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ၊ နည်းဥပဒေနှင့် လိုင်စင်ဆိုင်ရာ အမိန့်များတွင် ပါဝင်သောဟိုတယ်တည်ဆောက်ရေး ဆိုင်ရာ အခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria)ထက် မနိမ့်ကျစေရေး နှင့် အခြားစည်းကမ်းချက်များကို မပျက်မကွက် လိုက်နာဆောင်ရွက်ရန်။

(၄) ဟိုတယ်လုပ်ငန်းလိုင်စင် လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက် နှင့် အချိုးညီ ခန့်အပ်မည့် ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်း လက်မှတ်များတင်ပြရန်နှင့် ဟိုတယ်ဝန်ဆောင်မှုပေးရာတွင် လိုအပ်သည့် ယစ်မျိုးလိုင်စင် ရယူဆောင်ရွက်ရန်။

(၅) Sakura Construction Group Co., Ltd. မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့် ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေ နှင့်အညီ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်အားဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီး ဌာန သို့ဆက်လက်လျှောက်ထားရယူရန်။

**(ဟိုတယ်နှင့် ခရီးသွားလာရေး ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။**

(ဃ) **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ** **နောက်ဆက်တွဲ-ဃ**

(၁)ရေရယူအသုံးပြုမည့် အစီအစဉ်နှင့် ပတ်သက်၍ စီမံကိန်းအတွက် ရေမီတာလျှောက်ထားတပ်ဆင်၍လည်းကောင်း၊ သို့မဟုတ် မိမိ အစီအစဉ်ဖြင့် အဝီစိတွင်းတူးဖော်၍ လည်းကောင်း၊ သို့မဟုတ် ၇၇ လမ်းအရှေ့ဘက်ခြမ်းရှိ ကျုံးရေပိုက်လိုင်းမှတစ်ဆင့် သွယ်တန်းရယူ၍ လည်းကောင်း၊ မိမိ၏ လုပ်ငန်းစဉ်များနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ ရေနှင့် သန့်ရှင်းမှုဌာနသို့ ဆက်သွယ် ဆောင်ရွက်သွားရန်။

(၂) ရေဆိုးစွန့်ပစ်မည့် အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းမှ ထွက်ရှိလာမည့် ရေဆိုးများအား ၂၈ လမ်းမြောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းမှ ၂၈ လမ်း၏ တောင်ဘက်ခြမ်း ရေနုတ်မြောင်းသို့ ထိုမှတစ်ဆင့် ၇၈လမ်းအောက် ရေမြောင်းမှ ၇၈လမ်း အနောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းသို့ စီးဝင်စေလျက် မန္တလေး ဘူတာကြီးဝင်းအတွင်း ဖြတ်သန်းဖောက်လုပ်ထားသော ရေနုတ်မြောင်းများအား ရေစီးရေလာ ကောင်းမွန်စေရေးအတွက် ပြုပြင်ဆောင်ရွက်ရန် မြန်မာ့မီးရထားနှင့် ဆက်သွယ်၍ ဆောင်ရွက်သွားရန်။

(၃) Sakura Construction Group Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းမှ ရေရယူ အသုံးပြုမည့် အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့် အစီအစဉ်အား ကုမ္ပဏီနှင့် ညှိနှိုင်းထားပြီးဖြစ်ပါကြောင်းနှင့် ညှိနှိုင်းချက်အတိုင်း ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း။

၁၁။ ကျပ်ငွေ အထောက်အထားအဖြစ် Sakura Construction Group Co., Ltd. အမည်ဖြင့် Global Treasure Bank တွင် ၂၀၁၇ ခုနှစ်၊ ဇွန် ၁၆ ရက်နေ့ရှိ ငွေလက်ကျန် ကျပ် ၆၀၁,၃၀၉,၈၇၅ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေး ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာမည်ဖြစ်ပါကြောင်း၊ ဝန်ထမ်းများ ဝင်ငွေအပေါ် ဝင်ငွေခွန် ဥပဒေနှင့်အညီ ပေးဆောင်စေမည် ဖြစ်ပါကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းများ၏ သာရေးနာရေးများတွင်စီစဉ်ပေးခြင်း၊ ဥပဒေအရ ခံစားခွင့်များ အပြည့်အဝ ခံစားစေမည့်အပြင် ဝန်ထမ်းသက်သာ ချောင်ချိရေး သီးခြားအစီအစဉ်များဖြင့် ဝန်ထမ်းများဘဝ လုံခြုံမှုရှိအောင် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ လျှပ်စစ်မီး အသုံးပြုမှုနှင့်စပ်လျဉ်း၍ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်းမှ ၁၀၀၀ KVA ရှိ Oil Type Transformer (၁)လုံး လျှောက်ထားရယူသုံးစွဲမည် ဖြစ်ပါကြောင်းနှင့် အရန်အဖြစ် ၁၀၀၀ KVA ရှိ Silence Type Diesel Generator (၁)လုံး တပ်ဆင်အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဇ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၆။ Sakura Construction Group Co., Ltd.မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၃၀ ရက်နေ့ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီ လ ၁၆ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ **စိစစ်တင်ပြချက်**

(က) Sakura Construction Group Co., Ltd. သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၂၅ ရက်နေ့တွင် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာနထံမှ တင်ဒါအောင်မြင်ခဲ့ခြင်းဖြစ်ပါသည်။

(ခ) Sakura Construction Group Co., Ltd. သည်အခန်း ၁၆၁ ခန်းပါ Basement အပါအဝင် အထပ် ၁၁ ထပ် ရှိ ဟိုတယ်အား တည်ဆောက်မည်ဖြစ်ပြီး Basement တွင် ကား ၂၂ စီးရပ်နားနိုင်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းထည့်ဝင်မှုတွင် Sakura Construction Group Co., Ltd.မှ ကိုယ်ပိုင်မတည်ငွေ ကျပ် ၂၀၀၀.၀၀ သန်း (၂၀%) နှင့် ချေးငွေ ကျပ် သန်း ၈၀၀၀ (၈၀%) ပါဝင်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဃ) Sakura Construction Group Co., Ltd. မှ အဆိုပြုလုပ်ငန်းအတွက် ပစ္စည်း ဝယ်ယူမှု နှင့်ပတ်သက်ပြီး Project Financing Loan အနေဖြင့် Construction လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရာတွင် မိမိတို့ဘဏ်အနေဖြင့် ဘဏ်၏ လုပ်ထုံး လုပ်နည်းများအတိုင်း Sakura Construction Group Co., Ltd. မှ တင်ပြလာသော ပိုင်ဆိုင်မှုကို စိစစ်၍ ဘဏ်ချေးငွေ ထုတ်ပေးမည်ဖြစ်ကြောင်း Global Treasure Bank (Public Company Limited) မှ တင်ပြထားပါသည်။

(င) မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ ၇၉ လမ်း၊ ပါဆယ်(၂)ဝင်း မြေလွတ် ရှိမြေ (အလျား ၈၀၀' x အနံ ၄၀') ၀.၇၃၄၆ ဧကအား **တစ်နှစ် တစ်စတုရန်းပေလျှင် ၂၄၀၀၀ ကျပ်နှုန်း**ဖြင့် Myanmar Mandalay Co., Ltd. သို့ ငှားရမ်း၍ B.O.T စနစ်ဖြင့် အခန်း(၅)ခန်းပါ RC(၄)ထပ်တိုက်(၈)လုံး တည်ဆောက်၍ ခေတ်မီရုံးခန်း နှင့် ဈေးဆိုင်ခန်းများ ပါဝင်သည့် အဆောက်အဦများ တည်ဆောက်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ရန် ကော်မရှင်မှ မနသ-၁၀၉၄/၂၀၁၆ (၂၁-၃-၂၀၁၆)ဖြင့် ခွင့်ပြုခဲ့ပါသည်။

(စ) ယခုအဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်မည့် မြေ ၀.၂၅၉၅ ဧက(၁၁၃၀၀စတုရန်းပေ) အတွက် နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်နှစ် တစ်စတုရန်းပေလျှင် ကျပ် ၁၀,၆၁၉ နှုန်း ဖြင့် ငှားရမ်းမည်ဖြစ်ပါသည်။

(ဆ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဇ) ရင်းနှီးမြှုပ်နှံမှု နှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒ နှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာဇံမြို့နယ်၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်း ကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ ဝ.၂၅၉၅ ဧက (အလျား ၁၁၃' x အနံ ၁၀၀'= ၁၁၃၀၀ စတုရန်းပေ) အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တင်ပြလာခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ဦး ၆ (၅၁၆)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇွန် လ ၂၂ ရက်



သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၇ - ၄- ၂၀၁၇ )ရက်စွဲပါစာအမှတ်၊ မရက-၄ / မ - ၁၄၉၉ / ၂၀၁၇ (၃၂၆)

၁။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် ချမ်းအေးသာစံမြို့နယ်၊ ၂၈ လမ်း၊ ၇၇× ၇၈ လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃ပေ× အနံ ၁၀၀ပေ)ရှိ မြေဧရိယာ (၀.၂၅၉၅) ဧကအား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော်က ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားကို ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd မှ အဆိုပါ မြေနေရာတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော်က ဆောင်ရွက်မည့်အပေါ် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၄/၆/၁၇
ဒေါက်တာဇော်မြင့်မောင်
ဝန်ကြီးချုပ်

မိတ္တူကို

လုပ်လည်စာတွဲ ၊
ရုံးလက်ခံ ။

နောက်ဆက်တွဲ-ခ



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ဝဝ၁/ MIC(OSS) /ဝ၁(၁၀၂/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့် ငှားရမ်းပြီးဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၄၉၉/ ၂၀၁၇ (၂၈၂)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇ x ၇၈) လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃ x အနံ ၁၀၀) ဂ.၂၅၉၅ ဧက (၁၁၃၀၀ စတုရန်းပေ) ကို B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၅) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၁၈) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုစီမံကိန်းတွင် Basement + (၁၁) ထပ်ပါရှိပြီး၊ Suite room (၁၄) ခန်းနှင့် Standard room (၁၄၇) ခန်း၊ စုစုပေါင်း (၁၆၁)ခန်းပါရှိပါကာ ကားရပ်နားရန်အတွက် Basement တွင် (၁၄) စီးနှင့် Ground Floor တွင် (၁၁) စီး စုစုပေါင်း (၂၅) စီးရပ်နားနိုင်ရန်စီစဉ်ထားရှိပါကြောင်း၊

(ဂ) မြန်မာ့မီးရထားနှင့် SAKURA Construction Group Co., Ltd. တို့အကြားချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်းစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက် ပြန်ကြားစာပါရှိပါကြောင်း၊

(ဃ) လုပ်ငန်းခွင် သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုစီမံကိန်းမှ ထွက်ရှိလာမည့် မီးဖိုချောင်နှင့် အိမ်ခန်းအမှိုက်များကိုစနစ်တကျစွန့်ပစ်ခြင်း၊ ကားပါကင်နေရာများစီစဉ်

ထားရှိခြင်း၊ စွမ်းအင်သက်သာစေသောနည်းလမ်းများ အသုံးပြုခြင်းနှင့် ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် အပင်များစိုက်ပျိုးခြင်း၊ ရေစီးရေလာကောင်းမွန်အောင် ဆောင်ရွက်ခြင်းတို့ ပြုလုပ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး Basement +အထပ် (၁၁) ထပ်ခွဲ၊ အခန်း (၁၆၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင် ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်၊ အမွှား၊ ဖုန်မှုန်များကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ဟိုတယ်နှင့် ဈေးဆိုင်ခန်းများများမှ ထွက်ရှိလာမည့်စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့် စွန့်ပစ်ပစ္စည်း အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့်ငှားရမ်းပြီး Basement +အထပ် (၁၁) ထပ်ခွဲ၊ အခန်း (၁၆၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား တည်ဆောက်၍ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကိုအောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း** (Initial Environmental Examination - IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်

အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan - EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၆/၄/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ဂ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

**စာအမှတ်၊** ၁၈-ဂ/(အုပ်ချုပ်မှု)/နပတ/ ၀၇၇၆

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၅ ရက်။

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၅-၃-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၄/မ-၁၄၉၉/၂၀၁၇ (၂၈၁)

၁။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ(အလျား ၁၁၃′ x အနံ ၁၀၀′)၁၁၃၀၀စတုရန်းပေ(၀.၂၅၉၅)ဧကအား B.O.T ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်ယုယုဇော်မှပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မန္တလေးတိုင်းဒေသကြီးသည် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားသားဧည့်သည်များသည်ကုန်းကြောင်း၊ လေကြောင်းဖြင့် အဓိကဝင်ထွက်ရာဒေသဖြစ်ခြင်း၊စီးပွားရေးလမ်းဆုံမြို့ဖြစ်ခြင်းတို့ကြောင့် Sakura Construction Group Co.,Ltd မှ အထပ်ကိုးထပ်၊ အခန်း(၁၆၁)ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်မည့် စီမံကိန်းသည် ခရီးသွားလုပ်ငန်းကိုအထောက်အကူပြုသော စီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည်ရောက်ရှိမှု၊ ပြည်တွင်းခရီးသွားတည်းခိုမှုနှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာဖွံ့ဖြိုးမှုတို့သည် အချိုး ညီရန်လိုအပ်ပါသည်။

၃။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ(အလျား ၁၁၃ʹ x အနံ ၁၀၀ʹ)၁၁၃၀၀)စတုရန်းပေ(၀.၂၅၉၅)ဧကအား B.O.T ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်သဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်လိုအပ်ကြောင်းတွေ့ရှိရပါသည်။

၄။ Sakura Construction Group Co.,Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Suite Room(၁)ခန်းလျှင် မြန်မာကျပ်ငွေ( ၁၁၅၀၀၀)၊ Standard Room(၁)ခန်းလျှင် မြန်မာကျပ်ငွေ (၇၅၀၀၀) စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ပြီး ဈေးနှုန်းကျဆင်းရေးဦးတည်ဆောင်ရွက်ရန်လိုအပ်ပါသည်။

၅။ Sakura Construction Group Co.,Ltd မှ ကားရပ်နားရန်နေရာနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ လုံလောက်သည့် Car Parking ထည့်သွင်း တည်ဆောက်သင့်ပါသည်။

၆။ Sakura Construction Group Co.,Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့်လိုအပ်သောFacilitiesများထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ၊နည်းဥပဒေနှင့်လိုင်စင်ဆိုင်ရာအမိန့်များတွင်ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာအခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria) ထက်မနိမ့်ကျစေရေးအတွက် အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်းလိုအပ်ပါသည်။

၇။ Sakura Construction Group Co.,Ltd မှဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွားမည့်ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီခန့်အပ်မည့် ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်ပြီး ဟိုတယ်ဝန်ဆောင်မှုပေးရာတွင် လိုအပ်သည့် ယစ်မျိုးလိုင်စင်ရယူဆောင်ရွက်သွားရန်လည်း လိုအပ်ပါသည်။

၈။ ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်အား ဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ်ကြောင်းတင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ရည်မွန် ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ/မျှော

နောက်ဆက်တွဲ-ဃ




မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးမြို့

စာအမှတ်၊ ၁၀၀၁ / ၁၀ / တဆရ (၁၇၅၁)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

အကြောင်းအရာ။ **ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ရေဆိုးစွန့်ပစ်မည့်အစီအစဉ်များနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(၁၅-၃-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၄၉၉/၂၀၁၇(၂၈၀)

၁။ မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈လမ်း၊ ၇၇×၇၈လမ်းကြား၊ မြန်မာ့မီးရထားပိုင် ရွှေဒေါင်းစာကြည့်တိုက်အနောက်ဘက်ရှိမြေ (အလျား ၁၁၃'× အနံ ၁၀၀') ၁၁၃၀၀စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သည့်အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့နှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါတင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍စိစစ်ရာတွင် -

(က) ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းအတွက် ရေမီတာလျှောက်ထားတပ်ဆင်၍လည်းကောင်း၊ (သို့မဟုတ်)မိမိအစီအစဉ်ဖြင့်အဝီစိတွင်းတူးဖော်၍လည်းကောင်း၊ (သို့မဟုတ်) ၇၇လမ်းအရှေ့ဘက်ခြမ်းရှိ ကျုံးရေပိုက်လိုင်းမှတစ်ဆင့်သွယ်တန်းရယူ၍လည်းကောင်း၊ မိမိ၏လုပ်ငန်းစဉ်များနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ ရေနှင့်သန့်ရှင်းမှုဌာနသို့ ဆက်သွယ်ဆောင်ရွက် သွားရန်။

(ခ) ရေဆိုးစွန့်ပစ်မည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းမှထွက်ရှိလာမည့်ရေဆိုးများအား ၂၈လမ်းမြောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းမှ ၂၈လမ်း၏တောင်ဘက်ခြမ်းရေနုတ်မြောင်းသို့ ထိုမှတစ်ဆင့် ၇၈လမ်းအောက်ရေမြောင်းမှ ၇၈လမ်းအနောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းသို့စီးဝင်စေလျှက် မန္တလေးဘူတာကြီးဝင်းအတွင်းဖြတ်သန်းဖောက်လုပ်ထားသော ရေနုတ်မြောင်းများအားရေစီးရေလာကောင်းမွန်စေရေးအတွက် ပြုပြင်ဆောင်ရွက်ရန် မြန်မာ့မီးရထားနှင့်ဆက်သွယ်၍ဆောင်ရွက်သွားရန် တို့ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd. မှ ဆောင်ရွက်မည့်ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့အား စာပိုဒ်(၂)ပါအချက်များအတိုင်း ဆောင်ရွက်နိုင်ရေးကုမ္ပဏီနှင့်ညှိနှိုင်းထားရှိပြီးဖြစ်ပါကြောင်းနှင့် ညှိနှိုင်းချက်အတိုင်းဆောင်ရွက်ပါက ကန့်ကွက်ရန်တစ်စုံတစ်ရာမရှိပါကြောင်း ပြန်ကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(အောင်ကျော်ထွန်း၊ အတွင်းရေးမှူး)

၁၁၆ ၁၉/၁၁/၄




မန္တလေးတိုင်းဒေသကြီးအစိုးရ
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မန္တလေးမြို့

မ၃-၂၃၈ ၇.၁၁.၁၄

စာအမှတ်၊ ၁၀၀၁ / ၁၀ / တဆရ (၁၇၅၁)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

အကြောင်းအရာ။ **ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ရေဆိုးစွန့်ပစ်မည့်အစီအစဉ်များနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(၁၅-၃-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၄၉၉/၂၀၁၇(၂၈၀)

D-463 11.4.17

၁။ မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈လမ်း၊ ၇၇×၇၈လမ်းကြား၊ မြန်မာ့မီးရထားပိုင် ရွှေဒေါင်း စာကြည့်တိုက်အနောက်ဘက်ရှိမြေ (အလျား ၁၁၃'× အနံ ၁၀၀') ၁၁၃၀၀စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သည့်အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့ နှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါတင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍စိစစ်ရာတွင် -

(က) ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းအတွက် ရေမီတာလျှောက်ထား တပ်ဆင်၍လည်းကောင်း၊ (သို့မဟုတ်)မိမိအစီအစဉ်ဖြင့်အဝီစိတွင်းတူးဖော်၍လည်းကောင်း၊ (သို့မဟုတ်) ၇၇လမ်းအရှေ့ဘက်ခြမ်းရှိ ကျုံးရေပိုက်လိုင်းမှတစ်ဆင့်သွယ်တန်းရယူ၍ လည်းကောင်း၊ မိမိ၏လုပ်ငန်းစဉ်များနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာ ရေးကော်မတီ၊ ရေနှင့်သန့်ရှင်းမှုဌာနသို့ ဆက်သွယ်ဆောင်ရွက် သွားရန်။

(ခ) ရေဆိုးစွန့်ပစ်မည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းမှထွက်ရှိလာမည့်ရေဆိုးများအား ၂၈လမ်းမြောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းမှ ၂၈လမ်း၏တောင်ဘက်ခြမ်းရေနုတ် မြောင်းသို့ ထိုမှတစ်ဆင့် ၇၈လမ်းအောက်ရေမြောင်းမှ ၇၈လမ်းအနောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းသို့စီးဝင်စေလျက် မန္တလေးဘူတာကြီးဝင်းအတွင်းဖြတ်သန်းဖောက်လုပ် ထားသော ရေနုတ်မြောင်းများအားရေစီးရေလာကောင်းမွန်စေရေးအတွက် ပြုပြင်ဆောင် ရွက်ရန် မြန်မာ့မီးရထားနှင့်ဆက်သွယ်၍ဆောင်ရွက်သွားရန် တို့ဖြစ်ပါသည်။

Docume/net/Man Devi 15(1)

၃။ သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd. မှ ဆောင်ရွက်မည့်ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့အား စာပိုဒ်(၂)ပါအချက်များအတိုင်းဆောင်ရွက်နိုင်ရေးကုမ္ပဏီနှင့်ညှိနှိုင်းထားရှိပြီးဖြစ်ပါကြောင်းနှင့် ညှိနှိုင်းချက်အတိုင်းဆောင်ရွက်ပါက ကန့်ကွက်ရန်တစ်စုံတစ်ရာမရှိပါကြောင်း ပြန်ကြားပါသည်။

၁၃.၁၀.၁၄

ဥက္ကဋ္ဌ( )

(အောင်ကျော်ထွန်း၊ အတွင်းရေးမှူး)

VM3-233
7/4.





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈-၈/(အုပ်ချုပ်မှု)/နပတ/ ၀၇၇၆
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီ လ ၅ ရက်။

NPT-1296
6.4.17

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၅-၃-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၄/မ-၁၄၉၉/၂၀၁၇ (၂၈၁)

၁။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ × ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ(အလျား ၁၁၃' × အနံ ၁၀၀')၁၁၃၀၀စတုရန်းပေ(၀.၂၅၉၅)ဧက အား B.O.T ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်ယုယုဇော်မှပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပေးပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မန္တလေးတိုင်းဒေသကြီးသည် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည် များအပါအဝင် နိုင်ငံခြားသားဧည့်သည်များသည်ကုန်းကြောင်း၊ လေကြောင်းဖြင့် အဓိကဝင်ထွက်ရာ ဒေသဖြစ်ခြင်း၊စီးပွားရေးလမ်းဆုံမြို့ဖြစ်ခြင်းတို့ကြောင့် Sakura Construction Group Co.,Ltd မှ အထပ်ကိုးထပ်၊ အခန်း(၁၆၁)ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်မည့် စီမံကိန်းသည် ခရီးသွားလုပ်ငန်းကိုအထောက်အကူပြုသော စီမံကိန်းတစ်ရပ်ဖြစ်သော်လည်း ပြည်ပခရီးသည် ရောက်ရှိမှု၊ ပြည်တွင်းခရီးသွားတည်းခိုမှုနှင့် ဟိုတယ်နှင့်တည်းခိုရိပ်သာဖွံ့ဖြိုးမှုတို့သည် အချိုး ညီရန် လိုအပ်ပါသည်။

C-2-1 Remark -LH
C-2-1 Fine no

၃။ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ(အလျား ၁၁၃′ x အနံ ၁၀၀′)၁၁၃၀၀)စတုရန်းပေ(၀.၂၅၉၅)ဧကအား B.O.T ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်သဖြင့် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားမှတ်ချက်လိုအပ်ကြောင်းတွေ့ရှိရပါသည်။

၄။ Sakura Construction Group Co.,Ltd မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Suite Room(၁)ခန်းလျှင် မြန်မာကျပ်ငွေ( ၁၁၅၀၀၀)၊ Standard Room(၁)ခန်းလျှင် မြန်မာကျပ်ငွေ (၇၅၀၀၀) စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ပြီး ဈေးနှုန်းကျဆင်းရေးဦးတည်ဆောင်ရွက်ရန်လိုအပ်ပါသည်။

၅။ Sakura Construction Group Co.,Ltd မှ ကားရပ်နားရန်နေရာနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ လုံလောက်သည့် Car Parking ထည့်သွင်း တည်ဆောက်သင့်ပါသည်။

၆။ Sakura Construction Group Co.,Ltd မှ ဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့်လိုအပ်သောFacilitiesများထည့်သွင်းရေးအတွက် မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေ၊နည်းဥပဒေနှင့်လိုင်စင်ဆိုင်ရာအမိန့်များတွင်ပါဝင်သော ဟိုတယ်တည်ဆောက်ရေးဆိုင်ရာအခြေခံလိုအပ်ချက်စံနှုန်းများ(Basic Requirements and Criteria) ထက်မနိမ့်ကျစေရေးအတွက် အဆိုပါဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရန်လည်းလိုအပ်ပါသည်။

၇။ Sakura Construction Group Co.,Ltd မှဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွားမည့်ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီခန့်အပ်မည့် ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်ပြီး ဟိုတယ်ဝန်ဆောင်မှုပေးရာတွင် လိုအပ်သည့် ယစ်မျိုးလိုင်စင်ရယူဆောင်ရွက်သွားရန်လည်း လိုအပ်ပါသည်။

၈။ ကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံ ဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်အား ဤဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ်ကြောင်းတင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ရည်မွန် ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ/မျှော



MI3-224
5/4.

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၁၀၂/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့် ငှားရမ်းပြီးဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၄၉၉/ ၂၀၁၇ (၂၈၂)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇ x ၇၈) လမ်းကြား၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃ x အနံ ၁၀၀) ၀.၂၅၉၅ ဧက (၁၁၃၀၀ စတုရန်းပေ) ကို B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ (၃၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၅) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ၊ လုပ်ငန်းတည်ဆောက်မည့် ကာလမှာ (၁၈) လ ဖြစ်ကြောင်း၊

(ခ) အဆိုပြုစီမံကိန်းတွင် Basement + (၁၁) ထပ်ပါရှိပြီး၊ Suite room (၁၄) ခန်းနှင့် Standard room (၁၄၇) ခန်း၊ စုစုပေါင်း (၁၆၁)ခန်းပါရှိပါကာ ကားရပ်နားရန်အတွက် Basement တွင် (၁၄) စီးနှင့် Ground Floor တွင် (၁၁) စီး စုစုပေါင်း (၂၅) စီးရပ်နားနိုင်ရန်စီစဉ်ထားရှိပါကြောင်း၊

(ဂ) မြန်မာ့မီးရထားနှင့် SAKURA Construction Group Co., Ltd. တို့အကြားချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်းစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက် ပြန်ကြားစာပါရှိပါကြောင်း၊

(ဃ) လုပ်ငန်းခွင် သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ အဆိုပြုစီမံကိန်းမှ ထွက်ရှိလာမည့် မီးဖိုချောင်နှင့် အိမ်ခန်းအမှိုက်များကိုစနစ်တကျစွန့်ပစ်ခြင်း၊ ကားပါကင်နေရာများစီစဉ်

ထားရှိခြင်း၊ စွမ်းအင်သက်သာစေသောနည်းလမ်းများ အသုံးပြုခြင်းနှင့် ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် အပင်များစိုက်ပျိုးခြင်း၊ ရေစီးရေလာကောင်းမွန်အောင် ဆောင်ရွက်ခြင်းတို့ ပြုလုပ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့် ငှားရမ်းပြီး Basement +အထပ် (၁၁) ထပ်ခွဲ၊ အခန်း (၁၆၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင် ဖော်ထုတ်ခြင်း လုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသားအမှုန်၊ အမွှား၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင် လေထုနှင့် မြေထု ညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်နှင့် ဖိတ်စင်စက်သုံးဆီများ၊ ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းများ ဆောင်ရွက်ချိန်တွင် ဟိုတယ်နှင့် ဈေးဆိုင်ခန်းများများမှ ထွက်ရှိလာမည့်စွန့်ပစ်အမှိုက်များ၊ ရေဆိုးများနှင့် စွန့်ပစ်ပစ္စည်း အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့်ငှားရမ်းပြီး Basement +အထပ် (၁၁) ထပ်ခွဲ၊ အခန်း (၁၆၁) ခန်းပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား တည်ဆောက်၍ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကိုအောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်

အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (**Environmental Management Plan - EMP**) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

( င ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

၆/၄/၁၇

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ

၆/၄/၁၇






# SAKURA CONSTRUCTION GROUP CO.,LTD

Cherry Garden City, 14/3 Ward , South Okkalapa
Yangon, Myanmar.
Tel: +95 1 8500687 , Fax: 95 1 569073
Email: scgsakura1@gmail.com


စာအမှတ်၊ ၀၁၆/၀၃/SCG/၂၀၁၇(MIC)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၁၃ ရက်

သို့

ဥက္ကဋ္ဌ
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊**
ရန်ကုန်မြို့။

အကြောင်းအရာ ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှအဆိုပြုချက်များ ပြန်လည်ပြင်ဆင်တင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၆ ရက်စွဲပါစာအမှတ်၊ မရက-၄/မ-၁၄၉၉/၂၀၁၇(၁၂၃)။**

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Sakura Construction Group Co.,Ltd. မှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' × အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ ဧက)အား B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြခဲ့ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုချက်အား ပြင်ဆင်၍ပြန်လည်တင်ပြရန် အကြောင်းကြားလာပါသည်။ ၎င်းအဆိုပြုချက်ပါ ပြင်ဆင်ရန်အချက်အလက်များအား အောက်ပါအတိုင်း စီစဉ်ဆောင်ရွက်ပြီးကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေရယူ အသုံးပြုမည့် အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့် အစီအစဉ်တို့အား တင်ပြရန်ကိစ္စ။

Sakura Construction Group Co.,Ltd. မှ Director အဖွဲ့ သည် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီMCDC တို့ သွားရောက်ညှိနှိုင်း ဆောင်ရွက်ခဲ့ပါသည်။MCDC မှ တွဲဘက်အတွင်းရေးမှူး၊ ဌာနမှူး နှင့် MCDC အဖွဲ့တို့၏ အကြံပြုချက်အရ စီမံကိန်းတည်ရှိရာ (၂၈) လမ်းမှ စီမံကိန်း၏ အရှေ့မျက်နှာစာဘက်ရှိ ရေထုတ်မြောင်းမှတဆင့် (၇၈) လမ်းမရှိ ရေနုတ်မြောင်းထဲသို့ လည်းကောင်း၊၎င်းမှ (၇၈)လမ်းမကို ဖြတ်၍တည် ဆောက်ထားသော မြေအောက်ရေနုတ်မြောင်းမှတဆင့် မန္တလေးဘူတာကြီး အဆောက်အဦအောက်ရှိ ရေနုတ်မြောင်းမကြီးသို့ စီးဝင်စေရန် စီမံဆောင်ရွက်ရမည်ဖြစ်ကြောင်း အကြံပြုပါသည်။

Sakura Construction Group Co.,Ltd. သည်

(၁)ဟိုတယ်မှ နှစ်စဉ်ထုတ်လွှတ်မည့် ရေဆိုးပမာဏ အသေးစိတ်တွက်ချက်ထားမှုကို တင်ပြပေးရန်၊

(၂) ရာသီအလိုက် ရေစီးရေလာကောင်းမွန်မှု အခြေအနေကို ဆန်းစစ်ရန်၊

(၃)ထုတ်လွှတ်မည့် ရေဆိုးပမာဏ နှင့် ရေနုတ်မြောင်း၏အရွယ်အစားအရ လုံလောက်မှုရှိမရှိစိစစ်ရန်နှင့် လုံလောက်မှုမရှိပါက မရှိသည့်နေရာကို တိုးချဲ့ရန်၊ ရေစီးရေလာကောင်းမွန်ရန် ဆောင်ရွက်ရန်

(၄)ရေရယူ အသုံးပြုမည့် အစီအစဉ်အတွက် မိမိအစီအစဉ်ဖြင့် (၄)လက်မအရွယ်အဝီစိတွင်း (၂)တွင်းတူး၍ ရယူသုံးစွဲသွားမည်ဖြစ်ကြောင်း

ညှိနှိုင်းသဘောတူခဲ့ပါသည်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက်တောင်းခံလာပါကလည်း အကြံပြုတင်ပြသွားမည်ဖြစ်ကြောင်း MCDC နှင့် ညှိနှိုင်းဆောင်ရွက်ခဲ့ပါသည်။

သို့ပါ၍ အသေးစိတ်တွက်ချက်မှုများနှင့် လေ့လာစမ်းစစ်ချက်များကို အချိန်နှင့်တပြေးညီ ဆက်လက်၍ MCDC ကိုတင်ပြရန်နှင့် ဆက်လက်ဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်း Sakura Construction Group Co.,Ltd. နှင့် MCDC တို့ညှိနှိုင်းသဘောတူဆောင်ရွက်ခဲ့ပြီးဖြစ်ကြောင်း ပြန်လည်တင်ပြအပ်ပါသည်။

(ခ) B.O.T စာချုပ် (မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ဆောင် ရွက်ပြီး၍ ပြန်လည်တင်ပြပြီး ဖြစ်ပါသည်။

(ဂ) ပြည်တွင်းမှ ဝယ်ယူမည့်ပစ္စည်းများစာရင်းကို ပြင်ဆင်တွက်ချက်ပြီး ဖြစ်ပါသည်။

(ဃ) ပြည်တွင်း Global Treasure Bank ၏ ချေးငွေဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။

(င) ၂၀၁၆-၁၇ ဘဏ္ဍာရေးနှစ်အတွက် ပြည်တွင်းအခွန်များဦးစီးဌာန၊ သက်ဆိုင်ရာအခွန်မှူးထံသို့ အခွန်စည်းကြပ်ရန် နှစ်ချုပ်အစီရင်ခံစာတင်ပြပြီးဖြစ်ပါသည်။ အခွန်စည်းကြပ်မှုခံယူရန် သက်ဆိုင်ရာအခွန်မှူးနှင့် ညှိနှိုင်းဆောင်ရွက်ဆဲဖြစ်ပါသည်။ ပြည်တွင်းအခွန် ဦးစီးဌာနသို့ တင်ပြထားသော နှစ်ချုပ်ရှင်းတမ်း ကိုပူးတွဲ တင်ပြအပ်ပါသည်။ ပူးတွဲ (၃)

လေးစားစွာဖြင့်

Htay Aung
Chairman
Sakura Construction Group Co., Ltd.



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၆(၃၅၈၈ )

ရက် စွဲ၊ ၂ ၀ ၁ ၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၃၁)ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆ (၂၅၄၀)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၉) ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၆ (၁၀၁၄)

၁။ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော၊ အနာဂတ်စီမံကိန်းလျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန်ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော အကျိုးတူလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

၂။ အထက်ပါ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီး နယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃'ပေ × အနံ ၁၀၀'ပေ)၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီ

လီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရေးကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၄)က သက်ဆိုင်ရာကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီး B.O.T စနစ်ဖြင့် အကျိုးတူလုပ်ငန်းဆောင်ရွက်ခွင့်အား အဆိုပြုတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က အောက်ဖော်ပြပါ အချက် အလက်များဖြင့် ပြည့်စုံစွာ ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co.,Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင်မြေဧရိယာအား ဧကဖြင့် ဖော်ပြရန်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မတည်ငွေရင်းပမာဏတွင် ချေးငွေပါဝင်ပါက မည်သည့် နိုင်ငံ၊ မည်သူ့ထံမှ အတိုးနှုန်းမည်မျှဖြင့် ချေးယူ၍ မည်ကဲ့သို့ ပြန်လည်ပေးဆပ်မည့် အစီအစဉ်နှင့် ချေးငွေစာချုပ်မူကြမ်း တင်ပြရန်နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုတွင် ထည့်သွင်းတွက်ချက်ရန်။

(ဂ) ဆောက်လုပ်မည့် ဟိုတယ်အတွက် Bill of Quantities/ Layout Plan/ Drawing တို့ကို A3 ဆိုဒ်ဖြင့် တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေနှင့် ကားစီးရေ အရေအတွက် တင်ပြရန်။

(င) ဟိုတယ်အတွက် လိုအပ်သည့် လုပ်ငန်းသုံးပစ္စည်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်း၊ စက်ပစ္စည်းများနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ်စာရင်းတို့အား အသေးစိတ် တင်ပြပေးရန်။

(စ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း/စည်းမျဉ်းတွင် အဆိုပြုလုပ်ငန်းရည်ရွယ်ချက်တိုးရန်။

(ဆ) အဆိုပြုလုပ်ငန်းအတွက် ရေရယူအသုံးပြုမည့် အစီအစဉ်တင်ပြရန်။

(ဇ) မနသ ပုံစံ-၁ အပိုဒ် (၈)တွင် ရင်းနှီးမြှုပ်နှံမှုပုံစံအား ပြင်ဆင်တင်ပြရန်၊ အပိုဒ် (၈-ဂ)ပါ တည်ဆောက်ရေးကာလနှင့် အပိုဒ် (၉-င)ပါ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ပြန်လည်စိစစ်ပေးရန်။

(ဈ) Cash Flow Statement နှင့် Payback Period မပါရှိသဖြင့် တင်ပြရန်နှင့် Profit & Loss တွင် ဝန်ထမ်းလစာ ထည့်သွင်းတွက်ချက်ရန်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင် မြေလွတ်(အလျား ၁၁၃ ပေ × အနံ ၁၀၀ ပေ)နေရာအား မြန်မာ့မီးရထားမှ ဆာကူရာကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် ဌားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ
မြန်မာ့မီးရထား

၁၁၆ 62/19.5.17

M3-375
1815



**မန္တလေးတိုင်းဒေသကြီးအစိုးရ**

**မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ**

**မန္တလေးမြို့**

စာအမှတ်၊ ၁၀၀၁ / ၁၀ / တဆရ (၀၇၅၁)

ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဧပြီလ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။

အကြောင်းအရာ။ **ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ရေဆိုးစွန့်ပစ်မည့်အစီအစဉ်များနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(၁၅-၃-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၄/ မ-၁၄၉၉/၂၀၁၇(၂၈၀)

၁။ မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈လမ်း၊ ၇၇×၇၈လမ်းကြား၊ မြန်မာ့မီးရထားပိုင် ရွှေဒေါင်းစာကြည့်တိုက်အနောက်ဘက်ရှိမြေ (အလျား ၁၁၃'× အနံ ၁၀၀') ၁၁၃၀၀စတုရန်းပေ (၀.၂၅၉၅ဧက)အား B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့သည့်အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့နှင့်ပတ်သက်၍ သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါတင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍စိစစ်ရာတွင် -

(က) ရေရယူအသုံးပြုမည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းအတွက် ရေမီတာလျှောက်ထားတပ်ဆင်၍လည်းကောင်း၊ (သို့မဟုတ်)မိမိအစီအစဉ်ဖြင့်အဝီစိတွင်းတူးဖော်၍လည်းကောင်း၊ (သို့မဟုတ်) ၇၇လမ်းအရှေ့ဘက်ခြမ်းရှိ ကျုံးရေပိုက်လိုင်းမှတစ်ဆင့်သွယ်တန်းရယူ၍လည်းကောင်း၊ မိမိ၏လုပ်ငန်းစဉ်များနှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၊ ရေနှင့်သန့်ရှင်းမှုဌာနသို့ ဆက်သွယ်ဆောင်ရွက် သွားရန်။

(ခ) ရေဆိုးစွန့်ပစ်မည့်အစီအစဉ်နှင့်ပတ်သက်၍ စီမံကိန်းမှထွက်ရှိလာမည့်ရေဆိုးများအား ၂၈လမ်းမြောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းမှ ၂၈လမ်း၏တောင်ဘက်ခြမ်းရေနုတ်မြောင်းသို့ ထိုမှတစ်ဆင့် ၇၈လမ်းအောက်ရေမြောင်းမှ ၇၈လမ်းအနောက်ဘက်ခြမ်းရှိ ရေနုတ်မြောင်းသို့စီးဝင်စေလျှက် မန္တလေးဘူတာကြီးဝင်းအတွင်းဖြတ်သန်းဖောက်လုပ်ထားသော ရေနုတ်မြောင်းများအားရေစီးရေလာကောင်းမွန်စေရေးအတွက် ပြုပြင်ဆောင်ရွက်ရန် မြန်မာ့မီးရထားနှင့်ဆက်သွယ်၍ဆောင်ရွက်သွားရန် တို့ဖြစ်ပါသည်။

Documents/Man Devi 15(1)

၃။ သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd. မှ ဆောင်ရွက်မည့်ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ရေရယူအသုံးပြုမည့်အစီအစဉ်နှင့် ရေဆိုးစွန့်ပစ်မည့်အစီအစဉ်တို့အား စာပိုဒ်(၂)ပါအချက်များအတိုင်း ဆောင်ရွက်နိုင်ရေးကုမ္ပဏီနှင့်ညှိနှိုင်းထားရှိပြီးဖြစ်ပါကြောင်းနှင့် ညှိနှိုင်းချက်အတိုင်းဆောင်ရွက်ပါက ကန့်ကွက်ရန်တစ်စုံတစ်ရာမရှိပါကြောင်း ပြန်ကြားပါသည်။

၂၀၁၅၊၁၂

ဥက္ကဋ္ဌ (ကိုယ်စား)

(အောင်ကျော်ထွန်း၊ အတွင်းရေးမှူး)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊မရက-၄/မ-၁၄၉၉/၂၀၁၇(၄၁၃ )

ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေ လ ၂၃ ရက်

သို့

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။

(၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၆-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၇ (၆၃၄)

(၂) Sakura Construction Group Co., Ltd. ၏ ၁၅-၃-၂၀၁၇ ရက်စွဲပါ ပြင်ဆင်တင်ပြစာအမှတ်၊ ၀၁၆/၀၃/SCG/၂၀၁၇(MIC)

(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅-၃-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၄ / မ - ၁၄၉၉ /၂၀၁၇ (၂၇၉)

(၄) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၇-၄-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၄ / မ - ၁၄၉၉ /၂၀၁၇ (၃၂၆)

(၅) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၃-၅-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၄ / မ - ၁၄၉၉ /၂၀၁၇ (၃၂၆)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ (၀.၂၅၉၅ ဧက)အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်း(၁)နှင့်(၂)ပါစာများဖြင့် အဆိုပြုချက် ပြင်ဆင်တင်ပြ လာခြင်းကို ရည်ညွှန်း(၃)၊ (၄) နှင့် (၅)ပါစာများဖြင့် မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၆၁ အရ ကော်မရှင်သည် အဆိုပြုချက်ကို စိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာန၊ အဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်နိုင်ပြီး သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် အစိုးရများထံသို့ သဘောထားမှတ်ချက် တောင်းခံရန် လိုအပ်ပါ သည်။

၃။ သို့ရာတွင် မန္တလေးတိုင်း ဒေသကြီးအစိုးရအဖွဲ့မှ သဘောထား ပြန်ကြားလာခြင်း မရှိသေးပါ သဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်အစည်းအဝေးသို့ အချိန်မီ တင်ပြနိုင်ရန်အတွက် သဘောထား မှတ်ချက်ကို **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး၊ မန္တလေးတိုင်းဒေသကြီး
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
Sakura Construction Group Co., Ltd.
ရုံးလက်ခံ/ မျှောစာတွဲ




**A.M.K and Associates (E.I.A consulting)**
**No.17,BanderpinStreet,KyimyindieTownship,Yangon.**


စာအမှတ် ။ AMK / EIA(၄၈)
ရက်စွဲ ။ ၁၂. ၀၅. ၂၀၁၇

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

အကြောင်းအရာ။ ။ **Sakura Construction Group Co., Ltd. အတွက်အစီရင်ခံစာများရေးသားခြင်း။**

(၁) အထက်ပါကိစ္စနှင့်ပတ်သက်၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ၁၀၀') စတုရန်းပေ ၁၁၃၀၀၊ ၀.၂၅၉၅ ဧကတွင် Sakura Construction Group Co., Ltd. မှ ဟိုတယ်ဆောက်လုပ်မည်ဖြစ်ပါသည်။ ၎င်းလုပ်ငန်းများနှင့် သက်ဆိုင်သောအောက်ဖော်ပြပါ အစီရင်ခံစာအတွက် ကျွန်တော်များ AMK & Associates (EIA Consulting) မှ (၁၂. ၀၅. ၂၀၁၇)နေ့တွင် လုပ်ငန်းများစတင်လုပ်ဆောင်မည်ဖြစ်ပါသည်။

(က) ပတ်ဝန်းကျင် ထိမ်းသိမ်းရေးဆိုင်ရာစီမံထားရှိမှု အစီအစဉ်များပြုစုခြင်း (Environmental Management Plan (EMP)
(ခ) ပတ်ဝန်းကျင်ဆိုင်ရာကနဦးလေ့လာခြင်း Initial Environmental Impact Assessment (IEE)

(၂) အဆိုပါအစီအရင်ခံများကို ၁၂. ၀၅. ၂၀၁၇ ရက်နေ့တွင် စတင်ဆောင်ရွက်မည်ဖြစ်ပြီး၊ အဆိုပါရက်မှ (၄၅) ရက်အတွင်းပြီးစီးအောင်ဆောင်ရွက်၍ ဆက်လက်တင်ပြသွားမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Aung Myat Kyaw
Team Leader
A.M.K and Associates (EIA Consulting)

မိတ္တူကို-
- ရုံးလက်ခံ




**GLOBAL TREASURE BANK ( PUBLIC COMPANY LTD. )**
No. 653/699, MERCHANT STREET, PABEDAN TOWNSHIP,
YANGON,
THE REPUBLIC OF THE UNION OF MYANMAR.

FAX : 95 - 1 - 243240, 373688
TELEPHONES : 95 - 1 - 389365, 379122, 389490, 380098, 375607
E-mail : ho@gtbmm.com

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ။ အက်ဖ်ဘီ/၂၉၁/၂၀၁၇
ရက်စွဲ။ ။ ၂၀၁၇ခုနှစ်၊ မေလ၊ (၆)ရက်။

အကြောင်းအရာ။ ။ Sakura Construction Group Co.,Ltd အား Bank Guarantee ပေးနိုင်ပါကြောင်း တင်ပြခြင်း။

ရည်ညွှန်းချက်။ ။ (၁) Sakura Construction Group Co.,Ltd ၏ (၂၇.၂.၂၀၁၇)ရက်စွဲပါ လျှောက်ထားမှု။
(၂)မြန်မာ့မီးရထား(စီးပွားရေးဌာန)စာအမှတ်-စီးပွား(စမဘ)(၃၁၆/၂၀၁၇)ဆာကူရာ ရက်စွဲ-၂၀၁၇ခုနှစ်၊ ဖေဖော်ဝါရီလ (၂၂)။

အထက်ရည်ညွှန်းပါစာများအရ မိမိတို့ဘဏ်၏ Customer ဖြစ်သော Sakura Construction Group Co.,Ltd ၏ လျှောက်ထားချက်အရ ၎င်း Company သည် မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်းနှင့် (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်မြေ (အလျား-၁၁၃'xအနံ ၁၀၀') ရှိသော မြေနေရာအား BOT စနစ်ဖြင့် နှစ် (၃၀+၅+၅) နှစ် (၄၀) ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ရန် MIC သို့ တင်ပြထား၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ဆောင်ပါမည်ဟုတင်ပြလာပါသည်။

သို့ဖြစ်ပါ၍ Sakura Construction Group Co.,Ltd မှ ပစ္စည်းဝယ်ယူမှုနှင့် ပတ်သက်ပြီး Project Financing Loan အနေဖြင့် Construction လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရာတွင် မိမိတို့ဘဏ်အနေဖြင့် ဘဏ်၏လုပ်ထုံးလုပ်နည်းများအတိုင်း Sakura Construction Group Co.,Ltd မှ တင်ပြလာသည့်ပိုင်ဆိုင်မှုများကို စိစစ်၍ ဘဏ်မှချေးငွေထုတ်ပေးမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။




6/4/17

ဒေါက်တာလှညွှန့်
ဒု-ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို-
Sakura Construction Group Co.,Ltd

လျှို့ဝှက်

# Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Sakura Construction Group Co., Ltd. | - Sakura Construction Group Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ယုယုဇော်<br>- မန်နေဂျင်းဒါရိုက်တာ | - ဒေါ်ယုယုဇော်<br>- မန်နေဂျင်းဒါရိုက်တာ |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် Basement ပါအထပ်(၇)ထပ်ရှိ အခန်း (၁၈၀)ပါ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း | - B.O.T စနစ်ဖြင့် Basement မပါအထပ်(၉)ထပ်ရှိ အခန်း (၁၆၁)ပါ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇x၇၈) လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ | - ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊(၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ |
| | မြေအကျယ်အဝန်း | - ၀.၂၅၉၅ ဧက (အလျား ၁၁၃' x အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ | - ၀.၂၅၉၅ ဧက (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ |
| | မြေပိုင်ရှင် | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထား |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | -ကျပ် ၁၄၁၈၀ သန်း (US$ ၆.၃၀သန်းခန့် အပါအဝင်) | -ကျပ် ၈၀၀၀.၀၀ သန်း (US$ ၂.၈၁ သန်းခန့် အပါအဝင်) |
| ၆။ | တည်ဆောက်ရေးကာလ | ၃၀ လ | ၁၈ လ |

(သန်းပေါင်း)

| | ယခင် (ကျပ်) | ယခင် US$ | ယခင် စုစုပေါင်း | ယခု (ကျပ်) | ယခု US$ | ယခု စုစုပေါင်း |
|---|---|---|---|---|---|---|
| ငွေသား | ၁၃၇၇.၂၂ | ၀.၆၈ | ၂၂၅၉.၆၀ | ၁၈၀၅.၄၅ | - | ၁၈၀၅.၄၅ |
| ဆောက်လုပ်ရေးပစ္စည်း | ၄၂၆၂.၇၈ | ၅.၃၅ | ၁၁,၂၁၄.၆၃ | ၂၄၇၇.၅၂ | ၂.၅၀၉ | ၅၅၇၃.၇၇ |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | - | ၀.၂၇ | ၃၅၅.၇၇ | - | ၀.၂၉၆ | ၃၇၀.၂၃ |
| မော်တော်ယာဥ် | ၁၀၀.၀၀ | - | ၁၀၀.၀၀ | - | - | - |
| မြေအသုံးချမှုအတွက် ပရီမီယံ | ၂၅၀.၀၀ | | ၂၅၀.၀၀ | ၂၅၀.၀၀ | - | ၂၅၀.၀၀ |
| **စုစုပေါင်း** | **၅၉၉၀.၀၀** | **၆.၃၀** | **၁၄,၁၈၀.၀၀** | **၄၄၉၂.၉၇** | **၂.၈၀၅** | **၈၀၀၀.၀၀** |

လျှို့ဝှက်

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| ၇။ | ပဏာမစူးစမ်းလေ့လာမှုကာလ | ၁ နှစ် ခန့် | ၁ နှစ် ခန့် |
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦးနှစ် ၃၀ နှင့် နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်း မည်ဖြစ်ပါသည်။ | ကနဦးနှစ် ၃၀ နှင့် နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းမည်ဖြစ်ပါသည်။ |
| ၉။ | ဝန်ဆောင်မှု (၆)နှစ်မြောက်) | (see tables below) | (see tables below) |

ယခင် အဆိုပြုချက်ပါ အဓိကအချက်များ (၉။ ဝန်ဆောင်မှု (၆)နှစ်မြောက်)

| စဉ် | အမျိုးအစား | အခန်း အ ရေ အ တွက် (ခန်း) | ဝန် ဆောင် မှု ပေးမည့် အခန်း (Occu-pancy Rate %) | ဝန်ဆောင်ခနှုန်း (တစ်ရက်/ တစ်ခန်း) US$ | ဝန်ဆောင်ခနှုန်း (တစ်ရက်/ တစ်ခန်း) ကျပ် |
|---|---|---|---|---|---|
| (က) | Standard Room | ၁၈၀ | ၆၂ | ၁၂၄ | ၈၀၆၀၀ |
| | စုစုပေါင်း | ၁၈၀ | | | |

ယခု အဆိုပြုချက်ပါ အဓိကအချက်များ (၉။ ဝန်ဆောင်မှု (၆)နှစ်မြောက်)

| စဉ် | အမျိုးအစား | အခန်း အ ရေ အ တွက် (ခန်း) | ဝန်ဆောင် မှု ပေးမည့် အခန်း (Occu-pancy Rate %) | ဝန်ဆောင်ခ နှုန်း (တစ်ရက်/ တစ်ခန်း) (ကျပ်) |
|---|---|---|---|---|
| (က) | Standard Room | ၁၄၇ | ၆၂ | ၁၁၅၀၀၀ |
| (ခ) | Superior Room | ၁၄ | ၆၂ | ၇၅၀၀၀ |
| | စုစုပေါင်း | ၁၆၁ | | |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| ၁၀။ | ဝင်ငွေ(၆)နှစ်မြောက် ဝင်ငွေအား ကောက်နုတ်တင်ပြထားခြင်း ဖြစ်ပါသည်။ | - ကျပ် ၁၉၆၉.၉၀ သန်း<br>- US$ ၃.၀၃ သန်း | - ကျပ် ၃၄၃၁.၁၆ သန်း |
| ၁၁။ | အသားတင်အမြတ် | - ကျပ် ၆၉၂.၆၈ သန်း<br>- US$ ၀.၉၈ သန်း | - ကျပ် ၁၄၆၀.၇၁ သန်း |
| ၁၂။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၆၇၁.၄၁ သန်း<br>- ကျပ် ၉၃.၈၀ သန်း ၊ US$ ၀.၁၄ သန်း | - ကျပ် ၆၄၅.၇၁ သန်း<br>- ကျပ် ၁၇၁.၅၆ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br>ပြည်ပ | - **၉၃ ဦး**<br>၈၉ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၅၀ ၊ အမြင့်ဆုံးလစာမှာ US$ ၈၀၀ ဖြစ်ပါသည်။)<br>- ၄ ဦး (တစ်လလျှင် ပြည်ပလုပ်သား တစ်ဦး၏ အနိမ့်ဆုံး | - **၁၆၇ ဦး**<br>- ၁၆၃ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၅၀၀၀ ၊ အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။)<br>- ၄ ဦး (တစ်လလျှင် ပြည်ပ လုပ်သား တစ်ဦး၏ အနိမ့်ဆုံး |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| | | လစာမှာUS$ ၃၀၀၀ ၊ အမြင့်ဆုံး လစာမှာ US$ ၅၀၀၀ ဖြစ်ပါသည်။) | လစာမှာ ကျပ် ၃၁၂၅၀၀၀ ၊ အမြင့်ဆုံး လစာမှာ ကျပ် ၆၂၅၀၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | အရင်းကြေကာလ | - ၆ နှစ် | - ၃ နှစ် နှင့် ၂ လ |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၇.၉၁ % | - ၂၂ % |
| ၁၆။ | ငွေကြေးအထောက်အထား | - တင်ပြထားခြင်းမရှိပါ။ | - တင်ပြထားခြင်းမရှိပါ။ |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား အချိုးကျ သုံးစွဲမည်ဖြစ်ပါသည်။ | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား အချိုးကျ သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အား | - ၂၂၅၀ KVA | - ၄၀၀ kvA |
| ၁၉။ | အခြားတင်ပြချက်များ | (က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉) ကွက်အား ထိရောက်စွာအသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေ တိုးတက်ရရှိစေရန် ပြည်တွင်း လုပ်ငန်းရှင်များကို တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍ နှင့် ဆက်စပ်သော လုပ်ငန်းများကို ဆောင်ရွက် ခွင့်ပြုပါရန် ပြည်ထောင်စု အစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ၏(၁၉/၂၀၁၃)၁၃-၁၁-၂၀၁၃ သို့ တင်ပြခဲ့ရာ နိုင်ငံတော် သမ္မတကြီးထံ တင်ပြခဲ့ပြီး ပြည်နယ်/ တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူရန် လမ်းညွှန်ခဲ့ပြီး နိုင်ငံတော် သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ တင်ဒါ အောင်မြင်ကြောင်း အထောက်အထား တင်ပြထားပါသည်။ | (က) တင်ဒါအောင်မြင်ကြောင်း အထောက်အထား တင်ပြထားပါသည်။<br>(ခ) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏(၃၈/၂၀၁၅)၁၉-၁၁၂၀၁၅ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဟိုတယ်အဆောက်အဦပုံစံ၊ ကားပါကင်ထားရှိမှု အခြေအနေ၊ မတည်ငွေရင်း၊ ဟိုတယ်အခန်း အရေအတွက်၊ ဝန်ထမ်းဦးရေ၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများကို ပြင်ဆင်တင်ပြလာပါသည်။<br>(ဂ) မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ မှ Sakura Construction Group Co., Ltd. ၏ BOT စနစ်ဖြင့်ဆောက်လုပ်မည့် မြေအောက်ထပ်+ RC(၁၁) ထပ် ဟိုတယ် ဆောက်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ၏ စည်းမျဉ်း စည်းကမ်းများနှင့် ကိုက်ညီမှုရှိကြောင်း ၃-၃-၂၀၁၆ ရက်နေ့ပါစာဖြင့် ကုမ္ပဏီသို့ စိစစ်ပြန်ကြား |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| | | | ထားပါသည်။<br>(ဃ) ကားပါကင်ထားရှိမှုနှင့်စပ်လျဉ်း၍ Basement တွင် ကား၁၉ စီး ရပ်နိုင်ရန် စီစဉ်ထားပါကြောင်း တင်ပြထားပါသည်။<br>(င) BOT စာချုပ် (မူကြမ်း)ကို ပြင်ဆင် တင်ပြလာခြင်း မရှိပါ။ |
| ၂၀။ | B.O.Tစာချုပ်(မူကြမ်း)ပါအဓိက အချက်များ | ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀) နှင့် နှစ်ဖက်ညှိနှိုင်း၍ တစ်ကြိမ် လျှင် (၅)နှစ် နှစ်ကြိမ်သက်တမ်းတိုးမြှင့်ငှားရမ်းမည် ဖြစ်ပါသည်။ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အဆိုပါမြေကို Sakura Construction Group Co., Ltd. သို့ မြန်မာ့မီးရထားမှ လွှဲပြောင်း ပေးရမည်ဖြစ်ပါသည်။<br>**အပိုဒ်-၂(က)**<br>(၂) Sakura Construction Group Co., Ltd. သည် မြေကို လွှဲပြောင်းလက်ခံ ရရှိသည့် နေ့မှစ၍ အဆောက်အဦကို ၁၈ လအတွင်း အပြီးသတ် တည်ဆောက် ရမည်ဖြစ်ပြီး တည်ဆောက်ပြီးစီးခြင်း မရှိပါက ၁၈ လပြည့်သည့် နေ့မှစ၍ လစဉ် သတ်မှတ်ထားသော ငှားရမ်းခများကို ပေးသွင်းရမည် ဖြစ်ပါသည်။<br>**အပိုဒ်-၂(ခ)** | ပို့ဆောင်ရေး နှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)ကို ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ အောက်ပါ အချက်များကို ပြင်ဆင်တင်ပြရန် လိုအပ်ပါသည်-<br>(၁) **အပိုဒ်-၂(ခ)တွင်** မြေငှားရမ်းကာလ စတင်မည့် နေ့ကို (စာချုပ်လက်မှတ် ရေးထိုးမည့်နေ့မှစ၍)ဟု ဖော်ပြရန် လိုအပ်ပါသည်။<br>(၂) စာချုပ်သက်တမ်းကို သီးခြားဖော်ပြရန်နှင့် မြေငှားသက်တမ်းနှင့်စာချုပ်သက်တမ်းညီညွတ်ရန် လိုအပ်ပါသည်။<br>(၃) **အပိုဒ်-၇(ခ) " အငှားချထားခြင်းခံရသူက ဆောက်လုပ်ပြီးသော အဆောက်အအုံကို ထပ်ဆင့်ငှားရမ်းမည်ဆိုပါက ၎င်းမြေသည် မြန်မာ့မီးရထားပိုင်မြေဖြစ်ကြောင်း အငှားချထားခြင်းခံရသူသို့ (၃၀+၅+၅) နှစ်သာ လုပ်ကိုင်ခွင့်ပြုထားခြင်းဖြစ်ကြောင်း ဖော်ပြရမည်"** ဟု ဖော်ပြထားသဖြင့် အဆိုပြုလုပ်ငန်းမှာ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဖြစ်သောကြောင့် လုပ်ငန်းနှင့် မသက်ဆိုင်သည့်အပြင် ပြည်ထောင်စု ရှေ့နေချုပ်ရုံးသို့ |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| | | (၃) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သိန်း ၂၅၀၀ အား မြန်မာ့မီးရထားသို့ စာချုပ်လက်မှတ် ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀) အတွင်း အပြီးအပြတ် ပေးသွင်း ရမည်ဖြစ်ပါသည်။ **အပိုဒ်-၃(က)**<br>(၄) ငှားရမ်းမည့်မြေ (၁၁၃ပေ x ၁၀၀ပေ)အတွက် နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ်သိန်း ၁၂၀၀ နှုန်းဖြင့် အောက်ပါအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်- **အပိုဒ်-၄(က)**<br>- စာချုပ်လက်မှတ် ရေးထိုးပြီးနောက် အဆောက်အဦ ပြင်ဆင်ချိန် (၁၈)လပြည့်ပြီး ရက်ပေါင်း(၃၀)အတွင်း နှစ်စဉ် ငှားရမ်းခဖြစ်သော ပထမ(၆)လအတွက် ကျပ်သိန်း ၆၀၀ ကို ပေးသွင်းရန်။<br>- ပထမအရစ် ပေးသွင်းပြီး (၆)လ ပြည့်ချိန်တွင် ဒုတိယအရစ်အဖြစ် ဒုတိယ (၆)လ အတွက် ကျပ်သိန်း ၆၀၀ ကိုပေးသွင်းရန်။<br>- ကျန်နောက်နှစ်များတွင် နှစ်စဉ်သတ်မှတ်ထားသည့် ငှားရမ်းခကို (၆)လလျှင် (၁)ကြိမ်၊ တစ်နှစ်(၂)ကြိမ် ခွဲ၍ ပေးသွင်းရန်။<br>(၅) နှစ်စဉ် မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် နှစ်ဖက် ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်။ ငှားရမ်းခ ထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၀% ထက် မကျော်လွန်စေရပါ။ **အပိုဒ်-၄(ဂ)** | သဘောထား တောင်းခံစဉ်က ဤအပိုဒ် ပါဝင်ခြင်းမရှိ၍ ဤအပိုဒ်ကို ဖြုတ်ရန်လိုအပ်ပါသည်။<br>(၄) အပိုဒ်-၉ တွင် မြေနှင့် အဆောက်အအုံများ လွှဲပြောင်းပေးရမည့် နေ့ရက်ဖော်ပြရန် လိုအပ်ပါသည်။ |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| ၂၁။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | | (က) ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုးပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။<br>(ခ) BOT စာချုပ် (မူကြမ်း)ကို ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်။<br>(ဂ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်အခွန်ဖြစ်စေ၊ အခြား ပြည်တွင်းအခွန်အကောက်များဖြစ်စေ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ပြုနိုင်သည်ဟု ပြဋ္ဌာန်းထားသဖြင့် ပြည်တွင်းမှ အမှန်တကယ် ဝယ်ယူ ရရှိနိုင်သော တည်ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများနှင့် ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများကို ပြည်တွင်း မှ ဝယ်ယူရန်။<br>(ဃ) ပြည်ပမှတင်သွင်းမည့် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများနှင့်ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ၏တန်ဖိုးကို စိစစ်ပေးရန်နှင့် အသေးစိတ်စာရင်းများကို ပြည့်စုံစွာ တင်ပြပေးရန်။<br>(င) နိုင်ငံခြားငွေ နှင့် ကျပ်ငွေ အထောက်အထားများ တင်ပြရန်။ |

| | | ယခင် အဆိုပြုချက်ပါ အဓိကအချက်များ | ယခု အဆိုပြုချက်ပါ အဓိကအချက်များ |
|---|---|---|---|
| | | | (စ) မနသပုံစံ-၁(၈-က၊ခ)နှင့် (၉-က၊စ) တို့အား နောက်ဆက်တွဲများ နှင့်အညီ ပြင်ဆင်တင်ပြရန်။<br>(ဆ) ပြည်ပဝန်ထမ်းများကို ကျပ်ဖြင့် ပေးချေထားကြောင်း နှင့် မနသပုံစံ-၁(၉-စ)တွင် ပြည်တွင်းဧည့်သည် ၅၀% နှင့် ပြည်ပဧည့်သည်၅၀% ဟုဖော်ပြထားသော်လည်း ဝင်ငွေရရှိမှုတွင် ပြည်တွင်းဧည့်သည် ၁၀၀% ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(ဇ) ဆောက်လုပ်မည့် ဟိုတယ်၏ အထပ်အရေအတွက် နှင့် စပ်လျဉ်း၍ BOT စာချုပ် (မူကြမ်း) တွင် Basement မပါ (၉)ထပ်အဆောက်အအုံဟု လည်းကောင်း၊ မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီမှ မြေအောက်ထပ်+ RC(၁၁)ထပ်ဟုလည်းကောင်း သုံးနှုန်းထားသဖြင့် မန္တလေး မြို့တော် စည်ပင်သာယာရေး ကော်မတီမှ သတ်မှတ်သည့် အသုံးအနှုန်းနှင့် ညီညွတ်ရန်လိုပါသည်။<br>(ဈ) ၂၀၁၆-၁၇ ဘဏ္ဍာရေးနှစ်အတွက် အခွန်စည်းကြပ်ပြီးကြောင်း အထောက်အထားတင်ပြရန်။<br>(ည) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလာရေး ဝန်ကြီးဌာန၊ မန္တလေးမြို့တော် စည်ပင် သာယာရေး ကော်မတီနှင့် မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်းတို့သို့ သဘောထားများ တောင်းခံမည်ဖြစ်ပါသည်။ |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၆(၃၈၅၈ )
ရက် စွဲ၊ ၂ ၀ ၁ ၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၃၁)ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆ (၂၅၄၀)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၉) ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၆ (၁၀၁၄)

၁။ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော၊ အနာဂတ်စီမံကိန်းလျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန်ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော အကျိုးတူလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

၂။ အထက်ပါ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီး နယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ဝှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃'ပေ × အနံ ၁၀၀'ပေ)၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီ

လီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရေးကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၄)က သက်ဆိုင်ရာကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီး B.O.T စနစ်ဖြင့် အကျိုးတူလုပ်ငန်းဆောင်ရွက်ခွင့်အား အဆိုပြုတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က အောက်ဖော်ပြပါ အချက် အလက်များဖြင့် ပြည့်စုံစွာ ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co.,Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင်မြေဧရိယာအား ဧကဖြင့် ဖော်ပြရန်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မတည်ငွေရင်းပမာဏတွင် ချေးငွေပါဝင်ပါက မည်သည့် နိုင်ငံ၊ မည်သူ့ထံမှ အတိုးနှုန်းမည်မျှဖြင့် ချေးယူ၍ မည်ကဲ့သို့ ပြန်လည်ပေးဆပ်မည့် အစီအစဉ်နှင့် ချေးငွေစာချုပ်မူကြမ်း တင်ပြရန်နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုတွင် ထည့်သွင်းတွက်ချက်ရန်။

(ဂ) ဆောက်လုပ်မည့် ဟိုတယ်အတွက် Bill of Quantities/ Layout Plan/ Drawing တို့ကို A3 ဆိုဒ်ဖြင့် တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေနှင့် ကားစီးရေ အရေအတွက် တင်ပြရန်။

(င) ဟိုတယ်အတွက် လိုအပ်သည့် လုပ်ငန်းသုံးပစ္စည်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်း၊ စက်ပစ္စည်းများနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ်စာရင်းတို့အား အသေးစိတ် တင်ပြပေးရန်။

(စ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း/ စည်းမျဉ်းတွင် အဆိုပြုလုပ်ငန်းရည်ရွယ်ချက်တိုးရန်။

(ဆ) အဆိုပြုလုပ်ငန်းအတွက် ရေရယူအသုံးပြုမည့် အစီအစဉ်တင်ပြရန်။

(ဇ) မနသ ပုံစံ-၁ အပိုဒ် (၈)တွင် ရင်းနှီးမြှုပ်နှံမှုပုံစံအား ပြင်ဆင်တင်ပြရန်၊ အပိုဒ် (၈-ဂ)ပါ တည်ဆောက်ရေးကာလနှင့် အပိုဒ် (၉-င)ပါ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ပြန်လည်စိစစ်ပေးရန်။

(ဈ) Cash Flow Statement နှင့် Payback Period မပါရှိသဖြင့် တင်ပြရန်နှင့် Profit & Loss တွင် ဝန်ထမ်းလစာ ထည့်သွင်းတွက်ချက်ရန်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင် မြေလွတ်(အလျား ၁၁၃ ပေ × အနံ ၁၀၀ ပေ)နေရာအား မြန်မာ့မီးရထားမှ ဆာကူရာကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ
မြန်မာ့မီးရထား



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၆(၃၁၅၈ )
ရက် စွဲ၊ ၂ ၀ ၁ ၆ ခုနှစ်၊ ဒီဇင်ဘာလ ၂၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီ လီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ (၃၁)ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆ (၂၅၄၀)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၉) ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၆ (၁၀၁၄)

၁။ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော၊ အနာဂတ်စီမံကိန်း လျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေ တိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန်ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော အကျိုးတူလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်း နှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

၂။ အထက်ပါ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီး နယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃'ပေ × အနံ ၁၀၀'ပေ)၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီ

လီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရေးကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၄)က သက်ဆိုင်ရာကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီး B.O.T စနစ်ဖြင့် အကျိုးတူလုပ်ငန်းဆောင်ရွက်ခွင့်အား အဆိုပြုတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က အောက်ဖော်ပြပါ အချက် အလက်များဖြင့် ပြည့်စုံစွာ ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co.,Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင်မြေဧရိယာအား ကေဖြင့် ဖော်ပြရန်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မတည်ငွေရင်းပမာဏတွင် ချေးငွေပါဝင်ပါက မည်သည့် နိုင်ငံ၊ မည်သူ့ထံမှ အတိုးနှုန်းမည်မျှဖြင့် ချေးယူ၍ မည်ကဲ့သို့ ပြန်လည်ပေးဆပ်မည့် အစီအစဉ်နှင့် ချေးငွေစာချုပ်မူကြမ်း တင်ပြရန်နှင့် စီးပွားရေးဆိုင်ရာတွက်ချက်မှုတွင် ထည့်သွင်းတွက်ချက်ရန်။

(ဂ) ဆောက်လုပ်မည့် ဟိုတယ်အတွက် Bill of Quantities/ Layout Plan/ Drawing တို့ကို A3 ဆိုဒ်ဖြင့် တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေနှင့် ကားစီးရေ အရေအတွက် တင်ပြရန်။

(င) ဟိုတယ်အတွက် လိုအပ်သည့် လုပ်ငန်းသုံးပစ္စည်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်း၊ စက်ပစ္စည်းများနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ်စာရင်းတို့အား အသေးစိတ် တင်ပြပေးရန်။

(စ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း/ စည်းမျဉ်းတွင် အဆိုပြုလုပ်ငန်းရည်ရွယ်ချက်တိုးရန်။

(ဆ) အဆိုပြုလုပ်ငန်းအတွက် ရေရယူအသုံးပြုမည့် အစီအစဉ်တင်ပြရန်။

(ဇ) မနသ ပုံစံ-၁ အပိုဒ် (၈)တွင် ရင်းနှီးမြှုပ်နှံမှုပုံစံအား ပြင်ဆင်တင်ပြရန်၊ အပိုဒ် (၈-ဂ)ပါ တည်ဆောက်ရေးကာလနှင့် အပိုဒ် (၉-င)ပါ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ပြန်လည်စိစစ်ပေးရန်။

(ဈ) Cash Flow Statement နှင့် Payback Period မပါရှိသဖြင့် တင်ပြရန်နှင့် Profit & Loss တွင် ဝန်ထမ်းလစာ ထည့်သွင်းတွက်ချက်ရန်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင် မြေလွတ်(အလျား ၁၁၃ ပေ × အနံ ၁၀၀ ပေ)နေရာအား မြန်မာ့မီးရထားမှ ဆာကူရာကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ
မြန်မာ့မီးရထား




မြန်မာ့မီးရထား

စီးပွားရေးဌာန

စာအမှတ်၊စီးပွား(စမ-၈)(၂၃၂၂/၂၀၁၆)ဆာကူရာ

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

Sakura Construction Group Co.,Ltd

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုချက်များအား နောက်ဆုံးလက်ခံဆောင်ရွက်ပေးမည့်သတ်မှတ်ရက်ကြေငြာခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၁၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက- ၄/ မ-၁၄၉၉/ ၂၀၁၆ (၁၀၁၄)

(၂) ဤရုံး၏ ၂၈.၁၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊စီးပွား(စမ-၈)(၂၂၈၇/၂၀၁၆) ဆာကူရာ

(၃) ဝန်ကြီးရုံး၊ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၃.၁၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊ရထ -၂/ရန(MIC)/၂၀၁၆(၂၇၅၅)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Sakura Construction Group Co.,Ltd မှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက်အနောက်ဘက်ရှိ မြေ(အလျား ၁၁၃ ပေ x အနံ ၁၀၀ ပေ= ၁၁၃၀၀ စတုရန်းပေ)မြေဧက ၀.၂၅၉၅ အား B.O.T စနစ်ဖြင့် ငှားရမ်းပြီး ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာ တင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်း(၁)ပါစာဖြင့်ဝန်ကြီးရုံး၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ လူကြီးမင်း၏ကုမ္ပဏီသို့ ဤရုံးမှ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပြီးဖြစ်ပါသည်။ယခုအခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ယခင်ထုတ်ပြန် ထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်များအား ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ(၃၁)ရက်နေ့အထိသာလက်ခံဆောင်ရွက်ပေးမည်ဖြစ်ကြောင်းနှင့် ၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ (၁)ရက်နေ့မှ စတင်ကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီသာ လက်ခံဆောင်ရွက် ပေးတော့မည်ဖြစ်ပါကြောင်းကို ဝန်ကြီးရုံးပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၃)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၄။ သို့ဖြစ်ပါ၍ လူကြီးမင်း၏ကုမ္ပဏီမှ အဆိုပြုလွှာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ညွှန်ကြားချက်နှင့်အညီ ပြင်ဆင်ပြီးပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အမြန်တင်ပြနိုင်ရန် အတွက် အကြောင်းကြားပါသည်။

ပူးတွဲပါ - ရည်ညွှန်း(၃)ပါစာမိတ္တူ(၁)စုံ( ၃ )ရွက်

၂၊ ၁၂၊ ၂၀၁၆

အထွေထွေမန်နေဂျာ(စီးပွားရေး)ကိုယ်စား
(နေမျိုးအေး၊ ဒုတိယအထွေထွေမန်နေဂျာ/စီးပွားရေး)

မိတ္တူ

- ဦးဆောင်ညွှန်ကြားရေးမှူး
- အထွေထွေမန်နေဂျာ(အထက်မြန်မာပြည်)
- မန်နေဂျာ(စီးပွားရေး/တိုင်း)၊ တိုင်းအမှတ်(၃)မန္တလေး
- မန်နေဂျာ(စီးပွားရေး/တိုင်း)၊ တိုင်းအမှတ်(၇)ရန်ကုန် မှတဆင့်ကုမ္ပဏီသို့ဆက်သွယ်၍ အကြောင်းကြားပေးပို့ရန်ဖြစ်ပါသည်။

စီးပွားရေးဌာနစိတ်
ဝင်စာမှတ်ပုံတင်
ဝင်စာအမှတ်စဉ် ၃၄၆၆၀
ရက်စွဲ ၂၈.၁၁.၁၆
အချိန် ၁၆:၀၀
လက်မှတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
မြန်မာ့မီးရထား

စာအမှတ် ၊၀၀၇ -စမက-၂၀၁၆(MIC) ၆၃၈
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၂၈ ရက်

သို့

အထွေထွေမန်နေဂျာ(အင်ဂျင်နီယာ/စီမံ)၊ (စစ်ဆေးရေး)၊ (စီမံ/အုပ်ချုပ်)၊ (သွားလာရေး)၊ (မြို့ပြ)၊ (စက်မှုနှင့်လျှပ်စစ်)၊ (စီးပွားရေး)၊ (ဘဏ္ဍာရေး)၊ (အထက်မြန်မာပြည်)၊ (အောက်မြန်မာပြည်)

အကြောင်းအရာ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုချက်အား နောက်ဆုံးလက်ခံဆောင်ရွက်ပေးမည့် သတ်မှတ်ရက်ကြေညာခြင်း**

ရည်ညွှန်းချက် ။ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၃.၁၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၂၇၅၅)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ယခင်ထုတ်ပြန်ထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတို့ဖြင့် ရေးဆွဲဆောင်ရွက်ခဲ့ကြသည့် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်များအား ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ(၃၁)ရက်နေ့အထိသာ လက်ခံဆောင်ရွက်ပေးမည်ဖြစ်ကြောင်းနှင့် ၂၀၁၇ခုနှစ်၊ ဇန်နဝါရီလ(၁)ရက်နေ့မှ စတင်ကာ အဆိုပြုချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီသာ လက်ခံဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ဝန်ကြီးရုံးမှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုအပေါ် သိရှိလိုက်နာဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

**ပူးတွဲ** - ( ၂ )ရွက်

ဦးဆောင်ညွှန်ကြားရေးမှူး(ကိုယ်စား)
(သိန်းမြင့်၊ လက်ထောက်အထွေထွေမန်နေဂျာ-စီမံကိန်း)

မိတ္တူ
ဤရုံးလုပ်ငန်းဌာနစိတ်

D:\SSH(TSK DGM)\007.smk.2016(MIC).docx



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆( ၂၇၅၅ )
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၂၃ ရက်

အကြောင်းအရာ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အဆိုပြုချက်များအား နောက်ဆုံးလက်ခံဆောင်ရွက်ပေးမည့် သတ်မှတ်ရက်ကြေညာခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ (၁၆)ရက်စွဲပါ စာအမှတ်၊ မရက-၆/၁/၂၀၁၆(၀၇၈၈)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ယခင်ထုတ်ပြန်ထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတို့ဖြင့် ရေးဆွဲဆောင်ရွက်ခဲ့ကြသည့် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်များအား ၂၀၁၆ခုနှစ်၊ ဒီဇင်ဘာလ(၃၁)ရက်နေ့အထိသာ လက်ခံဆောင်ရွက်ပေးမည်ဖြစ်ကြောင်းနှင့် ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ(၁)ရက်နေ့မှစတင်ကာ အဆိုပြုချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီသာ လက်ခံဆောင်ရွက်ပေးမည်ဖြစ်ကြောင်း ထုတ်ပြန်အကြောင်းကြားလာသည့် ရည်ညွှန်းပါ အမိန့်ကြော်ငြာစာအား သိရှိလိုက်နာဆောင်ရွက်နိုင်ရန် ပူးတွဲပေးပို့အကြောင်းကြားပါသည်။

ပူးတွဲ - ( )ရွက်

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မင်းချစ်ဦး - ဒုတိယအမြဲတမ်းအတွင်းဝန်)

ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
ဦးဆောင်ညွှန်ကြားရေးမှူး၊ ကုန်းလမ်းပို့ဆောင်ရေး
ကျောင်းအုပ်ကြီး၊ ဗဟိုပို့ဆောင်ဆက်သွယ်ရေးကျောင်း
မိတ္တူ။

- အဖွဲ့ခွဲ (၁)၊ (၃)၊ (၄)၊ (၅)။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ် ၁၂၃ / ၂၀၁၆

၁၃၇၈ ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် ၂ ရက်

(၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၆ ရက်)

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေတို့ဖြင့် ရေးဆွဲဆောင်ရွက်ခဲ့ကြသည့် ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်များအား နောက်ဆုံးလက်ခံဆောင်ရွက်ပေးမည့် သတ်မှတ်ရက်ကြေညာခြင်း

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေကို ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် နိုင်ငံတော်သမ္မတက လက်မှတ်ရေးထိုးထုတ်ပြန်ခဲ့ပြီး ဖြစ်ပါသည်။ သို့ပါ၍ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်များကို အဆိုပါဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည် ဖြစ်ပါသည်။

၂။ သို့ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အတည်ပြုထုတ်ပြန်ခြင်းမပြုမီက အချို့သော ရင်းနှီးမြှုပ်နှံသူများအနေဖြင့် ယခင်ထုတ်ပြန်ထားသည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတို့နှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ တင်ပြရန် ပြင်ဆင်ဆောင်ရွက်ခဲ့ကြသည်များ ရှိနေပါသဖြင့် ကော်မရှင်အနေဖြင့် အဆိုပါ အဆိုပြုချက်များ ကို ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်နေ့အထိ လက်ခံဆောင်ရွက်ပေးမည် ဖြစ်ပါသည်။

၃။ သို့ပါ၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေတို့ဖြင့် အဆိုပြုချက်များ ပြင်ဆင်ရေးဆွဲလျက်ရှိကြသည့် ရင်းနှီးမြှုပ်နှံသူများအနေဖြင့် အပိုဒ် ၂ ပါ သတ်မှတ်ရက်မတိုင်မီ အဆိုပြုချက်များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပေးပို့တင်ပြကြရန်နှင့် ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၁ ရက်နေ့မှ စတင်ကာ အဆိုပြုချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီသာ လက်ခံဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း အသိပေးကြေညာအပ်ပါသည်။

(ပုံ)

ကျော်ဝင်း

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရကာ-၆/၁ / ၂၀၁၆( ၀၇၈၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၄ ရက်

ဖြန့်ဝေခြင်း
နိုင်ငံတော်သမ္မတရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
လွှတ်တော်ရုံး
ပြည်ထောင်စုတရားလွှတ်တော်ချုပ်
နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေဆိုင်ရာခုံရုံး
ပြည်ထောင်စုရွေးကောက်ပွဲကော်မရှင်ရုံး
ပြည်ထောင်စုဝန်ကြီးဌာနများအားလုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များအားလုံး
ပြည်ထောင်စုရှေ့နေချုပ်ရုံး
ပြည်ထောင်စုစာရင်းစစ်ချုပ်ရုံး
ပြည်ထောင်စုရာထူးဝန်အဖွဲ့
တိုင်းဒေသကြီး၊ ပြည်နယ်အစိုးရအဖွဲ့ရုံးအားလုံး
ဦးဆောင်ညွှန်ကြားရေးမှူး
ပုံနှိပ်ရေးနှင့် စာအုပ်ထုတ်ဝေရေးလုပ်ငန်း } မြန်မာနိုင်ငံပြန်တမ်းတွင် ထည့်သွင်းကြော်ငြာပေးပါရန်

အမိန့်အရ

(အောင်နိုင်ဦး)
အတွင်းရေးမှူး

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာ လ ၄ ရက်

အကြောင်းအရာ။ **မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား Sakura Construction Group Co., Ltd. သို့ B.O.T စနစ်ဖြင့် ငှားရမ်း၍ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် ပြန်လည်တင်ပြလာခြင်းကိစ္စ**

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ အလျား ၁၁၃' x အနံ ၁၀၀' အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး အထပ်(၉)ထပ်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော်မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန မှတစ်ဆင့် ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက်အဦ အရွယ်အစား၊ ကားပါကင်ထားရှိမည့် နေရာ၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ခြင်းကို ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်နေ့ပါစာဖြင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပါသည်။ အလံ "၁"

၃။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်အရ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၅ရက်နေ့ပါစာဖြင့် Sakura Construction Group Co., Ltd. မှ ၁၅% နှင့် British Virgin Island တွင်ဖွဲ့စည်းထားသည့် Ritzland Group Co., Ltd. မှ ၈၅% ဖြင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း တင်ပြထားသဖြင့် အဆိုပြုလုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက လိုအပ်ချက်များကို ပြည့်စုံစွာ ပြုစု၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၅ရက်နေ့ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။ အလံ "၂" အလံ "၃"

၄။ အဆိုပြုလုပ်ငန်းအား ရာခိုင်နှုန်းပြည့်နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်မည်ဖြစ်ကြောင်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၃၁ရက်နေ့ပါစာဖြင့် အဆိုပြုချက် ပြန်လည်တင်ပြလာခြင်းအပေါ် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆွေးနွေးဆုံးဖြတ်ချက်အရ အောက်ပါအချက်များ လိုအပ်နေကြောင်း စိစစ်တွေ့ရှိရပါသည်- အလံ "၄"

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ချုပ်ဆိုမည့် BOTစာချုပ်(မူကြမ်း)တွင် မြေဧရိယာအား ဧကဖြင့်ဖော်ပြရန်။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မတည်ငွေရင်းပမာဏတွင် ချေးငွေပါဝင်ပါက မည်သည့်နိုင်ငံ၊ မည်သူထံမှ အတိုးနှုန်းမည်မျှဖြင့် ချေးယူ၍ မည်ကဲ့သို့ ပြန်လည်ပေးဆပ်မည့် အစီအစဉ် နှင့် ချေးငွေစာချုပ်မူကြမ်း တင်ပြရန်နှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထည့်သွင်းတွက်ချက်ရန်။

(ဂ) ဆောက်လုပ်မည့် ဟိုတယ်အတွက် Bill of Quantities / Layout Plan/ Drawing တို့ကို A3 ဆိုဒ်ဖြင့် တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေနှင့် ကားစီးအရေအတွက် တင်ပြရန်။

(င) မနသ ပုံစံ-၁ တံဆိပ်ဝိုင်းတင်ပြရန်နှင့် မနသ ပုံစံ-၁၏ အပိုဒ်(၇)တွင် မတည်ငွေရင်းတိုးမြှင့်မည့် ကတိဝန်ခံချက်၊ မနသ ပုံစံ-၁(ဈ)တွင် ရင်းနှီးမြှုပ်နှံမှုပုံစံအား ပြင်ဆင် တင်ပြရန်။

(စ) မနသပုံစံ-၁ အပိုဒ်(၉-င)ပါ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ပြန်လည်စိစစ်ပေးရန်။

(ဆ) ရင်းနှီးမြှုပ်နှံသူ၏ ထင်ရှားသည့် မှတ်ပုံတင်မိတ္တူတင်ပြရန်။

(ဇ) Profit & Loss အား ၁၅ နှစ်အထိ တင်ပြထားသဖြင့် ဝင်ငွေရရှိမှု ၁၅ နှစ်အထိ တွက်ချက်တင်ပြရန်။

(ဈ) Cash Flow Statement နှင့် Payback Period မပါရှိသဖြင့် တင်ပြရန်နှင့် Profit & Loss တွင် ဝန်ထမ်းလစာ ထည့်သွင်းတွက်ချက်ရန်။

(ည) ဟိုတယ်အတွက်လိုအပ်သည့် လုပ်ငန်းသုံးပစ္စည်း၊ တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်း၊ စက်ပစ္စည်းများနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဉ်စာရင်းတို့အား အသေးစိတ် တင်ပြပေးရန်။

(ဋ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း/စည်းမျဉ်းတွင် အဆိုပြုလုပ်ငန်းရည်ရွယ်ချက်တိုးရန်။

(ဌ) အဆိုပြုလုပ်ငန်းအတွက် ရေရယူအသုံးပြုမည့် အစီအစဉ်တင်ပြရန်။

(ဍ) တည်ဆောက်ရေးကာလနှင့်စပ်လျဉ်း၍ BOT စာချုပ်တွင် ၁၈ လဟုလည်းကောင်း၊ မနသပုံစံ-၁(ဈ-ဂ)တွင် ၂နှစ်ဟု လည်းကောင်း ဖော်ပြထားသဖြင့် ပြန်လည် စိစစ်ပေးရန်။

၅။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၄)ပါ အချက်များပြည့်စုံစွာ ဆောင်ရွက်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ အကြောင်းကြားရန်အပေါ် စာကြမ်းနှင့်အတူ တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|
| 4/11/16 | 4/11/16 | 4.11.16 |
| နှင်းဖြူထွေး | မီမီသဥ္ဇာချို | ခင်သက်မော် |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး | ဒုတိယညွှန်ကြားရေးမှူး |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
ဖက်(စ်) ၀၁-၆၅၈၁၃၇
☎- ၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက-၄/မ-၁၄၉၉ /၂၀၁၆ ( ၁၀၁၄ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် နိုဝင်ဘာ လ ၉ ရက်

သို့
ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား Sakura Construction Group Co., Ltd. သို့ B.O.T စနစ်ဖြင့် ငှားရမ်း၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီး ဌာန မှတစ်ဆင့် အဆိုပြုချက် ပြန်လည်တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၏ ၂-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၂/၆၁ (MIC)/၂၀၁၅(၄၂၇၃)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၆-၁၀-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၅(၈၃၇)

(၃) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၅-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၁၇၄၀)

(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၄/မ-၁၄၉၉/၂၀၁၆(၈၃၅)

(၅) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၃၁-၁၀-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၂၅၄၀)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက် အဦး အရွယ်အစား၊ ကားပါကင်ထားရှိမည့်နေရာ၊ စီးပွားရေး ဆိုင်ရာတွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံး ပြည့်စုံစွာပြင်ဆင်ပြီးမှသာ အဆိုပြုချက် ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ခြင်းကို ရည်ညွှန်း(၂)ပါစာဖြင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနသို့ အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်အရ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ ရည်ညွှန်း(၃)ပါစာဖြင့် တင်ပြလာခြင်းအပေါ် အဆိုပြုလုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက လိုအပ်ချက်များကို ပြည့်စုံစွာပြုစု၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ရည်ညွှန်း(၄)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၃။ အဆိုပြုလုပ်ငန်းအား ရာခိုင်နှုန်းပြည့်နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့်သာ ဆောင်ရွက်မည် ဖြစ်ကြောင်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ ရည်ညွှန်း(၅)ပါစာဖြင့် အဆိုပြုချက် ပြန်လည် တင်ပြလာခြင်းအပေါ် အောက်ပါအချက်များ လိုအပ်နေကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ချုပ်ဆိုမည့် BOTစာချုပ်(မူကြမ်း)တွင် မြေဧရိယာအား ဧကဖြင့်ဖော်ပြရန်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မတည်ငွေရင်းပမာဏတွင် ချေးငွေပါဝင်ပါက မည်သည့်နိုင်ငံ၊ မည်သူထံမှ အတိုးနှုန်းမည်မျှဖြင့် ချေးယူ၍ မည်ကဲ့သို့ ပြန်လည် ပေးဆပ်မည့် အစီအစဉ် နှင့် ချေးငွေစာချုပ်မူကြမ်း တင်ပြရန်နှင့် စီးပွားရေးဆိုင်ရာ တွက်ချက်မှုတွင် ထည့်သွင်းတွက်ချက်ရန်။

(ဂ) ဆောက်လုပ်မည့် ဟိုတယ်အတွက် Bill of Quantities / Layout Plan/ Drawing တို့ကို A3 ဆိုဒ်ဖြင့် တင်ပြရန်။

(ဃ) ကားပါကင်ထားရှိမှု အခြေအနေနှင့် ကားစီးရေ အရေအတွက် တင်ပြရန်။

(င) ဟိုတယ်အတွက်လိုအပ်သည့် လုပ်ငန်းသုံးပစ္စည်း၊ တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်း၊ စက်ပစ္စည်းများနှင့် ပြည်ပမှ တင်သွင်းမည့် မော်တော်ယာဥ်စာရင်းတို့အား အသေးစိတ် တင်ပြပေးရန်။

(စ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်း/စည်းမျဉ်းတွင် အဆိုပြုလုပ်ငန်းရည်ရွယ်ချက်တိုးရန်။

(ဆ) အဆိုပြုလုပ်ငန်းအတွက် ရေရယူအသုံးပြုမည့် အစီအစဉ်တင်ပြရန်။

(ဇ) မနသ ပုံစံ-၁ အပိုဒ်(၈)တွင် ရင်းနှီးမြှုပ်နှံမှုပုံစံအား ပြင်ဆင် တင်ပြရန်၊ အပိုဒ်(၈-ဂ)ပါ တည်ဆောက်ရေးကာလ နှင့် အပိုဒ်(၉-င)ပါ လျှပ်စစ်ဓါတ်အား လိုအပ်ချက်အား ပြန်လည်စိစစ်ပေးရန်။

(ဈ) Cash Flow Statement နှင့် Payback Period မပါရှိသဖြင့် တင်ပြရန်နှင့် Profit & Loss တွင် ဝန်ထမ်းလစာ ထည့်သွင်းတွက်ချက်ရန်။

၄။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၃)ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ဆောင်ရွက်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန
Sakura Construction Group Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

25 2/11/16

M3-1135 2/11



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂ / ရန (MIC)/၂၀၁၆ (၂၅၄၃ )
ရက် စွဲ၊၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီ လီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၂၆)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၅ (၈၃၇)

(၂) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏၂၀၁၆ခုနှစ်၊ ဩဂုတ်လ (၅)ရက်စွဲပါ စာအမှတ်၊ ရထ-၂/ရန(MIC)/ ၂၀၁၆(၁၄၇၀)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ခုနှစ်၊ ဩဂုတ်လ (၁၅)ရက်စွဲပါ စာအမှတ်၊ မရက-၄/မ-၁၄၉၉/၂၀၁၆ (၈၃၅)

၁။ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင်မြေလွတ်(အလျား ၁၁၃ ပေ × အနံ ၁၀၀ ပေ)နေရာအား ဆာကူရာ ကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ရန်အတွက် အဆိုပြုချက်ကို မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်း(၁)ပါ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြခဲ့ခြင်းအပေါ် ကော်မရှင်က အောက်ပါအချက်များအား စိစစ်၍ ပြန်လည်တင်ပြရန်ဖြစ်ကြောင်း ရည်ညွှန်း(၃)ပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသည့် Sakura Construction Group Co., Ltd မှ ၁၅% နှင့် British Virgin Island တွင် ဖွဲ့စည်းထားသည့် Ritzland Group Co., Ltd. မှ ၈၅% ဖြင့် ဖက်စပ်ကုမ္ပဏီတည်ထောင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း Sakura Construction Group Co., Ltd မှ တင်ပြထားသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေငှားရမ်းခွင့်အား Sakura Construction Group Co., Ltd မှ တင်ဒါအောင်မြင်ခဲ့ခြင်းဖြစ်ပြီး Sakura Construction Group Co., Ltd မှ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဆောင်ရွက်လိုခြင်းကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီး ဌာနမှ သဘောတူခွင့်ပြုပါက ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်အား ပြန်လည်တင်ပြရန်၊

( ခ ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ဖက်စပ်ကုမ္ပဏီ Rice and Rich Hotel Co., Ltd. တို့ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားတောင်းခံပြီး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်၊

( ဂ ) Sakura Construction Group Co., Ltd မှ ဆောက်လုပ်မည့် မြေအောက်ထပ်+ RC(၁၁)ထပ်ရှိ ဟိုတယ်ဆောက်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှ စည်းမျဉ်းစည်းကမ်းနှင့်ကိုက်ညီမှုရှိကြောင်း ထောက်ခံထားပြီး အဆောက်အဦပုံစံတွင်လည်း အထပ်(၁၁)ထပ်ရှိကြောင်း စိစစ်တွေ့ရှိရသော်လည်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd တို့ ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)တွင် Basement အပါအဝင် အထပ်(၉)ထပ်ရှိ ဟိုတယ်အဆောက်အဦဟု ဖော်ပြထားသဖြင့် ဟိုတယ်အဆောက်အဦ အထပ်အရေအတွက်အား ပြန်လည်စိစစ်တင်ပြရန်။

၂။ အထက်ဖော်ပြပါအချက်များနှင့် ပတ်သက်၍ အောက်ပါအတိုင်း ရှင်းလင်းတင်ပြအပ်ပါသည်-

(က) မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင် မြေလွတ် (အလျား ၁၁၃ပေ× အနံ ၁၀၀ပေ)နေရာအား BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ရန် တင်ဒါခေါ်ယူစဉ်က တင်ဒါစည်းကမ်းချက်၌ မြန်မာနိုင်ငံသားများပိုင်ကုမ္ပဏီဖြင့်သာ ဆောင်ရွက်ရန် ဖော်ပြထားပါသည်။ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စာချုပ် (မူကြမ်း)အား ဥပဒေကြောင်းအရစိစစ်ပေးပို့ရာတွင် အပိုဒ် ၇ (ဆ) ၌ "ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံရောင်းချခြင်း၊ အခြားနည်းဖြင့်လွှဲပြောင်းပေးခြင်းတို့ကို လုံးဝမပြုလုပ်ရ" ဟု ပါရှိပြီးဖြစ်ပါသည်။ Sakura Construction Group Co.,Ltd. နှင့် Ritzland Group Co.,Ltd တို့ ဖက်စပ်တည်ထောင်၍ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုအား ဆောင်ရွက်ခြင်းမပြုဘဲ မြေငှားတင်ဒါ အောင်မြင်ထားသော Sakura Construction Group Co.,Ltd. မှ ၁၀၀% ပိုင်ဆိုင်မှုဖြင့် ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပါဝင်မည် မဟုတ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(ခ) မြန်မာ့မီးရထားနှင့် Sakura Construction Group Co.,Ltd. တို့ချုပ်ဆိုမည့် စာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ (၂၉-၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂(၅)၄-၃/နပတ(၉၄)ဖြင့် သဘောထားမှတ်ချက်ပြု ပြန်ကြားထားမှုအတိုင်းသာ ပြင်ဆင်ချုပ်ဆိုသွားမည် ဖြစ်ပါသည်။

(ဂ) ဟိုတယ်ဆောက်လုပ်ခြင်း အဆောက်အဦ အထပ်အရေအတွက်နှင့်ပတ်သက်၍ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသို့ မေးမြန်းခဲ့ရာ Basement (မပါ)ပေ(၁၀၀)အထိ ခွင့်ပြုပေးနိုင်ပါကြောင်း ပြန်ကြားခဲ့ပါသဖြင့် ယခင် လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အထပ်အမြင့် ဟိုတယ်လုပ်ငန်းအတွက် ဟိုတယ်အထပ် (၉)ထပ်၏ အမြင့်ပေ Basement (မပါ)ပေ (၁၀၀)အထိဖြစ်ကြောင်း လုပ်ငန်းရှင်များသို့ ပြန်ကြားနိုင်ရေး အတည်ပြုခွင့်ပြုမိန့်ချမှတ်ပေးနိုင်ပါရန် တင်ပြခဲ့ပြီးဖြစ်ပါသည်။ သို့ပါ၍ ကနဦး အဆောက်အဦ၏ အထပ်အမြင့်မှာ Basement မပါ(၉)ထပ် ဖြစ်ပါသောကြောင့် BOT စာချုပ်(မူကြမ်း)တွင် **Basement အပါအဝင် (၉)ထပ်ရှိ** ဟိုတယ်အဆောက်အဦဟု ဖော်ပြထားသည်ကို **Basement မပါ(၉)ထပ်** ဟု ပြန်လည်ပြင်ဆင်မည်ဖြစ်ပြီး အဆောက်အဦပုံစံမှာလည်း မူလပုံစံအတိုင်း ပြောင်းလဲမှုမရှိပါကြောင်းနှင့် စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ ဆောက်လုပ်သွားမည် ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင်မြေကွက် (အလျား ၁၁၃ပေ×အနံ ၁၀၀ ပေ)၌ မြန်မာ့မီးရထားမှ Sakura Construction Group Co.,Ltd. သို့ BOT စနစ်ဖြင့် မြေငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် အဆိုပြုလွှာနှင့်အတူ ပြန်လည်ပေးပို့တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ (၁)စုံ
စာချုပ်မူကြမ်း (၁)စုံ

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မင်းချစ်ဦး - ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ
မြန်မာ့မီးရထား




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ မရက-၄/မ-၁၄၉၉ / ၂၀၁၆ ( ၈၃၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ် လ ၁၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား Sakura Construction Group Co., Ltd. သို့ B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြု ပြန်လည်တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ (၂-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂/ ၆၁ (MIC)/၂၀၁၅(၄၂၇၃)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၆-၁၀-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၆(၈၃၇)

(၃) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ (၅-၈-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရထ-၂/ရန(MIC)/၂၀၁၆(၁၇၄၁)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်ချက်များ အားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက် ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်၍ ရည်ညွှန်း(၃)ပါစာဖြင့် ပြန်လည်တင်ပြလာသော အဆိုပြုချက်တွင် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်နေကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသည့် Sakura Construction Group Co., Ltd. မှ ၁၅% နှင့် British Virgin Island တွင်ဖွဲ့စည်းထားသည့် Ritzland Group Co., Ltd. မှ ၈၅% ဖြင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့်

ဆောင်ရွက်လိုကြောင်း Sakura Construction Group Co., Ltd. မှ တင်ပြထားသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေငှားရမ်းခွင့်အား Sakura Construction Group Co., Ltd. မှ တင်ဒါအောင်မြင်ခဲ့ခြင်းဖြစ်ပြီး Sakura Construction Group Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်လိုခြင်းကို ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ သဘောတူ ခွင့်ပြုပါက ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်အား ပြန်လည်တင်ပြရန်။

(ခ) ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ဖက်စပ်ကုမ္ပဏီ Rice and Rich Hotel Co., Ltd. တို့ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားတောင်းခံပြီး သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန်။

(ဂ) Sakura Construction Group Co., Ltd. မှ ဆောက်လုပ်မည့် မြေအောက်ထပ်+ RC (၁၁)ထပ်ရှိ ဟိုတယ် ဆောက်လုပ်ခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ မန္တလေး မြို့တော် စည်ပင်သာယာ ရေးကော်မတီမှ စည်းမျဉ်းစည်းကမ်း နှင့် ကိုက်ညီမှု ရှိကြောင်း ထောက်ခံထားပြီး အဆောက်အဦပုံစံတွင်လည်း အထပ် ၁၁ ထပ်ရှိကြောင်း စိစစ် တွေ့ရှိရသော်လည်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင် Basement အပါအဝင် အထပ် (၉)ထပ်ရှိ ဟိုတယ် အဆောက်အဦဟု ဖော်ပြထားသဖြင့် ဟိုတယ်အဆောက်အဦ အထပ်အရေအတွက်အား ပြန်လည် စိစစ် တင်ပြရန်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက အထက်စာပိုဒ်(၂)ပါ အချက်များကို ပြည့်စုံစွာပြုစု၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန
Sakura Construction Group Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရဆ-၂ / ရန (MIC)/၂၀၁၆ (၁၇၄၁)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ (၁) ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၏ ၂၀၁၅ခုနှစ်၊ အောက်တိုဘာလ (၂)ရက်စွဲပါ စာအမှတ်၊ ၂/၆၁(MIC)/ ၂၀၁၅(၄၂၇၃)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၂၆)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၅ (၈၃၇)

၁။ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော၊ အနာဂတ်စီမံကိန်းလျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန်ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော အကျိုးတူလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။ (နောက်ဆက်တွဲ "က"၊ "ခ"တို့ဖြင့် ဖော်ပြအပ်ပါသည်။)

၂။ အထက်ပါ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီး နယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။ (နောက်ဆက်တွဲ "ဂ"ဖြင့် ဖော်ပြအပ်ပါသည်။)

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃' × အနံ ၁၀၀')၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီ လီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရေးကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ယခင်ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ အစည်းအဝေးအမှတ်စဉ်(၃၄/၂၀၁၄)က သက်ဆိုင်ရာကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက် ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။(နောက်ဆက်တွဲ "ဃ"ဖြင့် ဖော်ပြအပ်ပါသည်။)

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီး B.O.T စနစ်ဖြင့် အကျိုးတူလုပ်ငန်းဆောင်ရွက်ခွင့်အား အဆိုပြုတင်ပြခဲ့ခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက်အဦ အရွယ်အစား၊ ကားပါကင်ထားရှိမည့်နေရာ၊ စီးပွားရေးဆိုင်ရာတွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံးပြည့်စုံစွာဖြင့် ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြား ခဲ့ပါသည်။(နောက်ဆက်တွဲ "င"ဖြင့် ဖော်ပြအပ်ပါသည်။)

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈) လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြန်မာ့မီးရထားပိုင် မြေလွတ်(အလျား ၁၁၃ ပေ × အနံ ၁၀၀ ပေ)နေရာအား မြန်မာ့မီးရထားမှ ဆာကူရာကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြင်ဆင်ဖြည့်စွက်၍ ပြန်လည်တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ
မြန်မာ့မီးရထား

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နိုင်ငံတော်သမ္မတရုံး



စာအမှတ်၊ ၅၅ ( ၂၂ ) / ၇ / သမ္မတရုံး
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၉ ရက်

သို့

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ အကျိုးတူလုပ်ငန်းများဆောင်ရွက်ခွင့်ပြုရန်ကိစ္စ

ရည် ညွှန်း ချက်။ ယင်း၏ ၇-၁၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၁ / ၇၁ ( Eco ) / ၂၀၁၃ ( ၃၈၃၅ )

မြန်မာ့မီးရထားပိုင်မြေများအား စီးပွားရေးအရ အကျိုးရှိထိရောက်စွာ အသုံးပြုနိုင်ရေးအတွက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့်ဆက်စပ်သော အကျိုးတူလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး
ဒုတိယသမ္မတဦးစီးရုံးများ
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
သမ္မတရုံးဝန်ကြီးဌာန (၃)
သမ္မတရုံးဝန်ကြီးဌာန (၅)

နောက်ဆက်တွဲ "ခ"

လျှို့ဝှက်



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပြည်ထောင်စုအစိုးရအဖွဲ့စီးပွားရေးရာကော်မတီ

စာအမှတ်၊ ၁၂ / ၁၆ / သမ္မတရုံး

ရက်စွဲ၊၂၀၁၃ခုနှစ်၊နိုဝင်ဘာလ ၁၄ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ ( ၁၉ / ၂၀၁၃ ) ၏ မှတ်တမ်းကောက်နုတ်ချက် တင်ပြခြင်းကိစ္စ**

၁။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီအစည်းအဝေး ( ၁၉ / ၂၀၁၃ ) ကို ၁၃ - ၁၁ -၂၀၁၃ ရက်နေ့ ( ဗုဒ္ဓဟူးနေ့ )တွင် နိုင်ငံတော်သမ္မတရုံး၊ ရုံးအမှတ်( ၁၄ ) အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဖယေားဖြင့် တင်ပြအပ်ပါသည်။

အတွင်းရေးမှူး

ပြည်ထောင်စုအစိုးရအဖွဲ့စီးပွားရေးရာကော်မတီ

**မိတ္တူကို**

နိုင်ငံတော်သမ္မတရုံး

စီးပွားရေးရာကော်မတီအဖွဲ့ဝင်( အားလုံး )

နိုင်ငံခြားရေးဝန်ကြီးဌာန

ပညာရေးဝန်ကြီးဌာန

ယဉ်ကျေးမှုဝန်ကြီးဌာန

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

လျှို့ဝှက်

| စဉ် | တင်ပြသည့်ဝန်ကြီးဌာန | အကြောင်းအရာ | ဆုံးဖြတ်ချက် |
|---|---|---|---|
| ၂၂ | အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန | ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရနှင့် ကိုရီးယားသမ္မတနိုင်ငံ အစိုးရတို့အကြား ချုပ်ဆိုမည့် ရင်းနှီးမြှုပ်နှံမှုမြှင့်တင်ရေးနှင့် အကာအကွယ်ပေးရေးသဘောတူစာချုပ် ချုပ်ဆိုရန်ကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံမှ ခွင့်ပြုချက်ရယူပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၂၃ | ဆောက်လုပ်ရေးဝန်ကြီးဌာန | ကိုယ်ပွားသတင်းစာတိုက် ( မော်လမြိုင် ) တည်ဆောက်ရန်အတွက် မြေနေရာ ( ၃.၈၀ ) ဧကအား ပြန်ကြားရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးနိုင်ပါရန်ကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်ထဲရေးဝန်ကြီးဌာနမှ တစ်ဆင့် ပြန်ကြားရေးဝန်ကြီးဌာနသို့ လွှဲပြောင်းပေးနိုင်ရေးအတွက် ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြ ဆောင်ရွက်ရန်။ |
| ၂၄ | ရထားပို့ဆောင်ရေးဝန်ကြီးဌာန | မြန်မာ့မီးရထားပိုင်မြေများအား စီးပွားရေးအရ အကျိုးရှိ ထိရောက်စွာ အသုံးပြုနိုင်ရေး ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့်ဆက်စပ်သော အကျိုးတူလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ် / တိုင်းအလိုက် တင်ဒါခေါ်ယူပြီး ဆောင်ရွက်ရန်။ |
| ၂၅ | ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန | မြန်မာနိုင်ငံ၊ ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနနှင့် မွန်ဂိုးလီးယားသမ္မတနိုင်ငံတို့အကြား ခရီးသွားလုပ်ငန်းပူးပေါင်း ဆောင်ရွက်ရေးမြှင့်တင်မှုဆိုင်ရာ သဘောတူညီမှုတစ်ရပ်အား လက်မှတ်ရေးထိုးခွင့်ပြုပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |

နောက်ဆက်တွဲ "ဂ"

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်



ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ဝန်ကြီးရုံး



စာအမှတ်၊ ၁ /၇၁-မမ/၂၀၁၃( ၆၁၅၁ )

ရက် စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၄ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ပြည်နယ်နှင့် တိုင်းဒေသကြီးအစိုးရအဖွဲ့များ၏ ကြီးကြပ်မှုဖြင့် အိတ်ဖွင့်တင်ဒါ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

၁။ မြန်မာ့မီးရထားပိုင် မြေများအား စီးပွားရေးအရ အကျိုးရှိ ထိရောက်စွာ အသုံးချနိုင်ရေးအတွက် ရထားပြေးဆွဲခြင်းလုပ်ငန်းများနှင့် လွတ်ကင်းပြီး အနာဂတ်စီမံကိန်း လျာထားချက်များတွင် မပါရှိသော တိုင်းဒေသအသီးသီးရှိ မြန်မာ့မီးရထားပိုင် မြေလွတ် (၁၉)နေရာအား သတင်းစာ၌ ကြော်ငြာခေါ်ယူ၍ ပြည်တွင်းလုပ်ငန်းရှင်များအား ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်နွယ်သော အကျိုးတူလုပ်ငန်းများ [ဖက်စပ် (သို့မဟုတ်) BOT (သို့မဟုတ်) မြေငှားစသည့်] ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတထံ တင်ပြပြီး ပြည်နယ် / တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။ (နောက်ဆက်တွဲ "က"၊ "က-၁"တို့ဖြင့် ဖော်ပြအပ်ပါသည်။)

၂။ လမ်းညွှန်ချက်နှင့်အညီ နိုင်ငံတော်သမ္မတရုံးသို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတရုံးက လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ခွင့်ပြုခဲ့ပါသည်။ (နောက်ဆက်တွဲ "ခ"ဖြင့် ဖော်ပြအပ်ပါသည်။)

၃။ သို့ဖြစ်ပါ၍ ဆောင်ရွက်လိုသည့် လုပ်ငန်းများသည် ဆောက်လုပ်ရေးလုပ်ငန်း မဟုတ်သော်လည်း သယ်ယူပို့ဆောင်ရေးနှင့် ဆက်စပ်သော လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် ဌာနပိုင် မြေနေရာများကို အကျိုးတူ နစ်ရှည်ငှားရမ်းခြင်းလုပ်ငန်းအား ပြည်နယ်/တိုင်းဒေသကြီး အစိုးရအဖွဲ့များ၏ ကြီးကြပ်မှုဖြင့် တင်ဒါစိစစ်ရေးအဖွဲ့များ ဖွဲ့စည်းဆောင်ရွက်မည်ဖြစ်ပါသဖြင့် မြေကွက်(၁၉)ကွက် တည်ရှိရာ စစ်ကိုင်း၊ မန္တလေး၊ ပဲခူး၊ ရန်ကုန်၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့များနှင့် ကချင်ပြည်နယ်အစိုးရအဖွဲ့တို့သို့ လိုအပ်သည်များ လမ်းညွှန်မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲ - မြေကွက်(၁၉)ကွက်

သန်းဌေး

ပြည်ထောင်စုဝန်ကြီး

မိတ္တူ။

- မြန်မာ့မီးရထား

| စဉ် | နေရာဒေသ | မြေအကျယ်အဝန်း (ပေ) |
|---|---|---|
| X (၁) | မြစ်ကြီးနားဘုတာပလက်ဖောင်း(မြောက်ဘက်) မြေကွက် | (၈၀ x ၄၀) |
| (၂) | မြစ်ကြီးနားဘုတာယာဒ်ဝင်း(ဘီအိုစီ)မြောက်ဘက် သခင်နက်ဖေလမ်းရှိ မြေကွက် | (၁၀၀ x ၁၀၀) |
| (၃) | မိုးကောင်းဘုတာယာဒ်ဝင်းဘုတာအရှေ့မြေနေရာ | (၁၅၀ x ၅၀) |
| (၄) | မုံရွာဘုတာ၏ အနောက်ဘက် ပြည်ထောင်စုလမ်းဘေး မြေနေရာ | (၁၀၂ x ၂၀) |
| X (၅) | မန္တလေးဘုတာနယ်မြေ ပါဆယ်(၁)နှင့် အရာရှိ နားနေဆောင်ကြား မြေနေရာ | (၂၂၀ x ၁၂၀) |
| (၆) | မန္တလေးမြို့၊ ရွှေဒေါင်းစာကြည့်တိုက်အနောက်ဘက် မြေလွတ် | (၁၁၃ x ၁၀၀) |
| (၇) | မန္တလေးမြို့၊ (၇၉)လမ်း ပါဆယ်(၂)ဝန်း | (၈၀၀ x ၄၀) |
| (၈) | တောင်ငူမြို့၊ အမှတ်(၁၈)ရပ်ကွက်ရှိ မြေလွတ် | (၁၀၅ x ၁၅၆) |
| (၉) | ဖြူးမြို့၊ အကွက်အမှတ် ၂(ခ) ဈေးရပ်၊ ဘုတာ မြောက်ဘက် မြေလွတ် | (၃၃၀ x ၉၀) |
| (၁၀) | ဖြူးမြို့၊ အကွက်အမှတ် ၂(ခ) ဈေးရပ်၊ ဘုတာတောင်ဘက် မြေလွတ် | (၃၈ x ၃၀) |
| (၁၁) | ရန်ကုန်မြို့၊ ကမ်းနားလမ်းနှင့် ဝါးတန်း(၁)လမ်းထောင့် မြေနေရာ | (၁၁၇ x ၅၀) |
| (၁၂) | ရန်ကုန်မြို့၊ သမိုင်းဘုတာအရှေ့၊ ဗဟိုလမ်းဘေး မြေနေရာ | (၂၉၁ x ၅၉) |
| X (၁၃) | ရန်ကုန်မြို့၊ ရေကျော်ဘုတာယာဒ်ဝင်းဘေးအရှေ့ဘက် မြေနေရာ | (၅၀၀ x ၅၀) |
| (၁၄) | ရန်ကုန်မြို့၊ တိုးကြောင်ကလေးဘုတာ၊ အမှတ်(၂)လမ်းမကြီးဘေးမြေနေရာ | (၃၀၀ x ၁၅၀) |
| (၁၅) | မြန်အောင်ဘုတာ (မြောက်ဘက်) မြေနေရာ | (၆၃၀ x ၂၀၀) |
| (၁၆) | မြန်အောင်ဘုတာရုံအဝင် ကားလမ်းဘေး မြေနေရာ | (၈၈၀ x ၇၀) |
| (၁၇) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘုတာယာဒ်ဝန်း (တောင်ဘက်)မြေနေရာ | (၈၀ x ၆၀) |
| (၁၈) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘုတာယာဒ်ဝန်း (တောင်ဘက်)မြေနေရာ | (၄၀ x ၆၀) |
| (၁၉) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘုတာယာဒ်ဝန်း (တောင်ဘက်)မြေနေရာ | (၃၀၀ x ၂၀) |

# မြန်မာ့မီးရထားပိုင်မြေကွက်(၁၉)ကွက်၏တည်နေရာနှင့်အကျယ်အဝန်းဇယား

| စဉ် | တိုင်းအမှတ် | တည်နေရာ | အကျယ်အဝန်း | မှတ်ချက် |
| --- | --- | --- | --- | --- |
| ၁ | တိုင်းအမှတ်(၁) | မြစ်ကြီးနားဘူတာပလက်ဖောင်း(မြောက်ဘက်) | အလျား ၈၀ ပေ x အနံ ၄၀ ပေ | ဘူတာယာဒ်ဝင်းအတွင်းရှိခြင်း၊ရွှေဖြူတိုက်ခန်းများ၏ အနောက်တွင်ရှိပြီး ဝင်/ထွက် လမ်းမကောင်းသဖြင့် တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၂ | တိုင်းအမှတ်(၁) | မြစ်ကြီးနားဘူတာယာဒ်ဝင်း BOC မြောက်ဘက် သခင်နက်ဖေလမ်း | အလျား ၁၀၀ ပေ x အနံ ၁၀၀ ပေ | တိုင်းဒေသကြီးအစိုးရမှကန့်ကွက်၍တင်ဒါခေါ်ယူခြင်း မပြုပါ။ |
| ၃ | တိုင်းအမှတ်(၁) | မိုးကောင်းဘူတာ၏အနောက်ဘက်ပြည်ထောင်စုလမ်းဘေး | အလျား ၁၅၀ပေ x အနံ ၅၀ ပေ | ဒေါ်ချိုလွင်ထွေးမှတင်ဒါအောင်မြင်ခဲ့ပြီးဖြစ်ပါသည်။ (၃)နှစ်မှုဖြင့်စာချုပ်ချုပ်ဆိုခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။ |
| ၄ | တိုင်းအမှတ်(၂) | မုံရွာဘူတာ၏ အနောက်ဘက် ပြည်ထောင်စုလမ်းဘေး | အလျား ၁၀၂၄ပေ x အနံ ၂၀ ပေ | အနံ(၂၀)ပေသာရှိသဖြင့်ဝင်ငွေမြင့်မားစွာမရရှိနိုင်သဖြင့် တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၅ | တိုင်းအမှတ်(၃) | မန္တလေးဘူတာ ပါဆယ်(၁)နှင့် အရာရှိနားနေဆောင်ကြား မြေနေရာ | အလျား ၂၂၀ပေ x အနံ ၁၂၀ ပေ | ဘူတာယာဒ်ဝင်းအတွင်းရှိပြီး ရထားလုပ်ငန်းအတွက် ဆက်စပ်အသုံးပြုရန်ရှိခြင်းကြောင့်တင်ဒါခေါ်ယူခြင်း မပြုခဲ့ပါ။ |
| ၆ | တိုင်းအမှတ်(၃) | မန္တလေးမြို့ရွှေဥဒေါင်းစာကြည့်တိုက်အနောက်ဘက်မြေလွတ် | အလျား ၁၃၃ပေ x အနံ ၁၀၀ ပေ | ဒေါ်ယုယုဇော် Sakura Construction Group Co.,Ltd မှတင်ဒါအောင်မြင်ခဲ့ပါသည်။ |
| ၇ | တိုင်းအမှတ်(၃) | မန္တလေးမြို့၇၉လမ်းပါဆယ်(၂)ဝန်းမြေကွက် | အလျား ၈၀၀ပေ x အနံ ၄၀ ပေ | ဦးသန်းဝင်း၊မြန်မာ-မန္တလေးကုမ္ပဏီမှတင်ဒါအောင်မြင်ခဲ့ပြီး နှစ်(၃၀)BOTစနစ်နှစ်ဘက်ညှိနှိုင်း၍နောက်ထပ်(၅)နှစ်(၂) ကြိမ်ဖြင့်စာချုပ်ချုပ်ဆိုဆောင်ရွက်ခဲ့ပြီးဖြစ်ပါသည်။ |
| ၈ | တိုင်းအမှတ်(၅) | တောင်ငူမြို့ အမှတ်(၁၈)ရပ်ကွက် တွင်ရှိသောမြေကွက် | အလျား ၁၀၅ပေ x အနံ ၁၅၆ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |
| ၉ | တိုင်းအမှတ်(၆) | ဖြူးမြို့ အကွက်အမှတ်(၂)(ခ)စျေးရပ်ဘူတာမြောက်ဘက် | အလျား ၃၃၀ပေ x အနံ ၉၀ ပေ | Hi Star ကုမ္ပဏီ မှတင်ဒါအောင်မြင်ခဲ့ပါသည်။ |

| | | | | |
|---|---|---|---|---|
| ၁၀ | တိုင်းအမှတ်(၅) | မြို့ပြ အကွက်အမှတ်(၂)(ခ)ဈေးရပ်ဘူတာတောင်ဘက် | အလျား ၃၈ပေ x အနံ ၃၀ ပေ | ဒေါ်သဇင် မှ တင်ဒါအောင်မြင်ခဲ့ပြီး MIC သို့တင်ပြခဲ့ရာ ဝန်ကြီးဌာနအစီအစဉ်ဖြင့်ဆောင်ရွက်ရန်ညွှန်ကြားထားပါသည်။ |
| ၁၁ | တိုင်းအမှတ်(၇) | ရန်ကုန်မြို့ကမ်းနားလမ်းနှင့် ဝါးတန်း(၁)လမ်းထောင့် | အလျား ၁၁၇ ပေ x အနံ ၅၀ ပေ | ပြည်ထောင်စုအစိုးရအဖွဲ့မှရပ်ဆိုင်းထားရန်ညွှန်ကြားထားပါသဖြင့်တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၁၂ | တိုင်းအမှတ်(၇) | ရန်ကုန်မြို့၊သမိုင်းဘူတာအရှေ့၊ ဗဟိုလမ်းဘေးမြေကွက် | အလျား ၂၉၁၀ပေ x အနံ ၅၆ ပေ | ပြည်ထောင်စုအစိုးရအဖွဲ့မှရပ်ဆိုင်းထားရန်ညွှန်ကြားထားပါသဖြင့်တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၁၃ | တိုင်းအမှတ်(၇) | ရန်ကုန်မြို့၊တိုးကြောင်ကလေးဘူတာ၊အမှတ်(၂)<br>လမ်းမကြီးဘေးမြေကွက် | အလျား ၃၀၀ပေ x အနံ ၁၅၀ ပေ | ပြည်ထောင်စုအစိုးရအဖွဲ့မှရပ်ဆိုင်းထားရန်ညွှန်ကြားထားပါသဖြင့်တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၁၄ | တိုင်းအမှတ်(၇) | ရန်ကုန်မြို့၊ရေကူးဘူတာယာဒ်ဝင်းဘေး အရှေ့ဘက် မြေလွတ် | အလျား ၅၀၀ပေ x အနံ ၅၀ ပေ | မြို့ပတ်ရထားလမ်းရထားဖွံ့ဖြိုးမှုလုပ်ငန်းများဆက်စပ်ဆောင်ရွက်ရန် ရှိသဖြင့် တင်ဒါခေါ်ယူခြင်းမပြုခဲ့ပါ။ |
| ၁၅ | တိုင်းအမှတ်(၉) | မြန်အောင်ဘူတာမြောက်ဘက်၊မြေနေရာလွတ် | အလျား ၆၃၀ပေ x အနံ ၂၀၀ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |
| ၁၆ | တိုင်းအမှတ်(၉) | မြန်အောင်ဘူတာရုံအဝင် ကားလမ်းဘေး | အလျား ၈၈၀ပေ x အနံ ၇၀ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |
| ၁၇ | တိုင်းအမှတ်(၉) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘူတာယာဒ်ဝင်း(တောင်ဘက်) | အလျား ၈၀ပေ x အနံ ၆၀ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |
| ၁၈ | တိုင်းအမှတ်(၉) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘူတာယာဒ်ဝင်း(တောင်ဘက်) | အလျား ၄၀ပေ x အနံ ၆၀ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |
| ၁၉ | တိုင်းအမှတ်(၉) | ဟင်္သာတမြို့နယ်၊ ခမောက်စုဘူတာယာဒ်ဝင်း(တောင်ဘက်) | အလျား ၃၀၀ပေ x အနံ ၂၀ ပေ | တင်ဒါယှဉ်ပြိုင်မည့်သူမရှိပါ။ |



မန္တလေးတိုင်းဒေသကြီးအစိုးရ
လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန
မန္တလေးမြို့

စာအမှတ်။ ၁၃ /၁၂၁၀ ( ၅ ) /တင်ဒါ / ၂၀၁၄(၃၇၉)
ရက် စွဲ ။ ၂၀၁၄ - ခုနှစ် ၊ဩဂုတ်လ( ၂၅ )ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့မီးရထား၊နေပြည်တော်

အကြောင်းအရာ။ အိတ်ဖွင့်တင်ဒါရွေးချယ်ပြီးစီးမှုအကြောင်းကြားခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) မန္တလေးတိုင်းဒေသကြီးအစိုးရလမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊မန္တလေး၏ (၂၄. ၇. ၂၀၁၄) ရက်စွဲပါစာအမှတ်၁၀/၁၂၁၀(၅)/တင်ဒါ/၂၀၁၄

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရလမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန၊မန္တလေး၏ (၁၂. ၈. ၂၀၁၄) ရက်စွဲပါစာအမှတ်၁၂/၁၂၁၀(၅)/တင်ဒါ/၂၀၁၄(၃၆၄)

၁။ မန္တလေးမြို့၊မြန်မာ့မီးရထားပိုင် ၇၉လမ်း၊မန္တလေးဘူတာပါဆယ်(၂)ဝန်းမြေလွတ်(အလျား ၈၀၀ပေx အနံ ၄၀ပေ = ၃၂၀၀၀စတုရန်းပေ)နှင့် ၂၈လမ်း၊(၇၇x၇၈)လမ်းကြား ရွှေဥဒေါင်းစာကြည့်တိုက်အနောက်ဘက် မြေလွတ်(အလျား ၁၁၃ပေ x အနံ ၁၀၀ပေ = ၁၁၃၀၀ စတုရန်းပေ) လုပ်ငန်း(၂)နေရာအား အိတ်ဖွင့်တင်ဒါ ခေါ်ယူခဲ့ပါသည်။

၂။ တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီအနေဖြင့် လုပ်ငန်း(၁)၇၉လမ်း၊မန္တလေးဘူတာ ပါဆယ်(၂)ဝန်း မြေလွတ်တွင် လူနေဆိုင်ခန်း(၄)ထပ် ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် အဆိုပြုလွှာ တင်သွင်းသည့်ကုမ္ပဏီ(၉)ခုနှင့် လုပ်ငန်း(၂)၊ ၂၈လမ်း၊(၇၇x ၇၈)လမ်းကြားရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်မြေလွတ်တွင် ဟိုတယ်(၉)ထပ် ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် အဆိုပြုလွှာတင်သွင်းထားသည့်ကုမ္ပဏီ(၅)ခုအား ငွေကြေးဆိုင်ရာနှင့် လုပ်ငန်းဆိုင်ရာအဆိုပြုလွှာများအား (၁၈. ၇. ၂၀၁၄)ရက်နှင့်(၂၂. ၇. ၂၀၁၄)ရက်နေ့များတွင် စိစစ်ရွေးချယ်မှု များကို သတ်မှတ်စည်းကမ်းချက်အမှတ်ပေးဆောင်ရွက်ခဲ့ပါသည်။အဆိုပါစိစစ်ရွေးချယ်မှုကို လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာနအနေဖြင့် ဝန်ကြီးချုပ်၊မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ထံ တင်ပြလျှက် အတည်ပြုချက်ရယူခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်ပါမြေလွတ်တင်ဒါ(၂)ခုနှင့်ပတ်သက်ပြီး၊လုပ်ငန်းများ အမြန်ဆုံးစတင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် တင်ဒါတင်သွင်းသည့်ကုမ္ပဏီများထံမှ အဆင့်(၁)ရရှိသည့်အောက်ဖော်ပြပါ ကုမ္ပဏီ(၂)ခုအား ရွေးချယ်ရရှိဆုံးဖြတ်ခဲ့ပါသည် -

(က) လုပ်ငန်းနေရာ(၁)၊ ၇၉လမ်း၊မန္တလေးဘူတာပါဆယ်(၂)ဝန်းမြေလွတ်၊ လူနေဆိုင်ခန်း (၄)ထပ်ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် ဦးသန်းဝင်း၊မြန်မာ-မန္တလေးကုမ္ပဏီလီမိတက်အား လည်းကောင်း၊

(ခ) လုပ်ငန်းနေရာ(၂)၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်မြေလွတ်တွင် ဟိုတယ်(၉)ထပ် ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် ဦးငွေအောင်၊SAKURA Trade Centerအား လည်းကောင်း၊

၄။ သို့ပါ၍ ယခုအတည်ပြုရွေးချယ်ပြီးဖြစ်သည့် အဆိုပါကုမ္ပဏီ(၂)ခုအား လိုအပ်သလိုဆက်လက်၍ စာချုပ် ချုပ်ဆိုပြီး၊လုပ်ငန်းများစတင်အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေး၊ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားအနေဖြင့် ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

| ပေးပို့ပြီး | |
|---|---|
| သမ | |
| အထမ | |
| ထယမ | |
| ၄၊ ၅ | |
| ၄၊ ၈ | မိတ္တူ။ |

8/8-2017

(ကျော်ဆန်း)
တိုင်းဒေသကြီးဝန်ကြီး

- ပြည်ထောင်စုဝန်ကြီးရုံး၊ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊နေပြည်တော်
- ဝန်ကြီးချုပ်၊မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
- အထွေထွေမန်နေဂျာ(မြို့ပြ)၊နေပြည်တော်
- အထွေထွေမန်နေဂျာ(စီးပွားရေး)၊နေပြည်တော်
- အထွေထွေမန်နေဂျာ(အထက်မြန်မာပြည်)၊မန္တလေး
- တိုင်းတာဝန်ခံ၊တိုင်းအမှတ်(၃)၊မန္တလေး
- ဥက္ကဌ၊SAKURA Trade Center Co.,Ltd၊မန္တလေးမြို့ ၊ မြန်မာ-မန္တလေးကုမ္ပဏီလီမိတက်
- ရုံးလက်ခံ
- လှည့်လည်စာတွဲ



မန္တလေးတိုင်းဒေသကြီးအစိုးရ

လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန

မန္တလေးမြို့

စာအမှတ်၊ ၁၀/၁၂၁၀(၅)/တင်ဒါ/ ၂၀၁၄ (၃၉

ရက် စွဲ ၊ ၂၀၁၄ခုနှစ် ဩဂုတ်လ(၁၂) ရက်

သို့

ဦးသန်းဝင်း၊မြန်မာ-မန္တလေးကုမ္ပဏီလီမိတက်

ဦးဌေးအောင်၊ SAKURA Trade Centre Co; Ltd

အကြောင်းအရာ။ အိတ်ဖွင့်တင်ဒါ ရွေးချယ်ပြီးစီးမှုအကြောင်းကြားခြင်း

ရည် ညွှန်း ချက်။ (၁) မန်နေဂျာ(စီးပွားရေး/တိုင်း)၊ တိုင်းအမှတ်(၃)မန္တလေး၏ ၂၃-၆-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ မစ-၄/၂၀၁၄/မြေလွှတ်တင်ဒါ (၃၃၄)

(၂) မန္တလေးတိုင်းဒေသကြီးအစိုးရ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီး ဌာန၊ မန္တလေး ၏ ၂၄-၇-၂၀၁၄ရက်စွဲပါစာအမှတ်၊ ၁၀/၁၂၁၀(၅)/တင်ဒါ/ ၂၀၁၄

၁။ မန္တလေးမြို့၊ မြန်မာ့မီးရထားပိုင် ၇၉လမ်း၊ မန္တလေးဘူတာ ပါဆယ်(၂)ဝန်းမြေလွတ် (အလျား ၈၀၀ ပေx အနံ ၄၀ ပေ=၃၂၀၀၀ စတုရန်းပေ) နှင့်၂၈လမ်း၊ (၇၇x၇၈)လမ်းကြား ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်မြေလွတ် (အလျား ၁၁၃ပေxအနံ ၁၀၀ပေ=၁၁၃၀၀စတုရန်းပေ) လုပ်ငန်း(၂)နေရာအား အိတ်ဖွင့်တင်ဒါခေါ်ယူခဲ့ပါသည်။

၂။ တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီသည် လုပ်ငန်း(၁) ၇၉လမ်း၊ မန္တလေးဘူတာ ပါဆယ်(၂) ဝန်းမြေလွတ်တွင် လူနေဆိုင်ခန်း(၄)ထပ်ဆောက်လုပ်ခြင်း လုပ်ငန်းအတွက်အဆိုပြုလွှာ တင်သွင်းသည့် ကုမ္ပဏီ(၉)ခုနှင့် လုပ်ငန်း(၂)၊ ၂၈ လမ်း ၊ (၇၇x၇၈)လမ်းကြား ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက် မြေလွတ်တွင်ဟိုတယ်(၉)ထပ်ဆောက်လုပ်ခြင်း လုပ်ငန်းအတွက်အဆိုပြုလွှာတင်သွင်းထားသည့် ကုမ္ပဏီ(၅)ခုအား ငွေကြေးဆိုင်ရာနှင့် လုပ်ငန်းဆိုင်ရာအဆိုပြုလွှာများကို (၁၈-၇-၂၀၁၄)ရက် နှင့် (၂၂-၇-၂၀၁၄) ရက်နေ့များတွင် စိစစ်ရွေးချယ်မှုများဆောင်ရွက်ခဲ့ပါသည်။ အဆိုပါ စိစစ်ရွေးချယ်မှုကို တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီမှ ဝန်ကြီးချုပ်၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ထံ တင်ပြခဲ့ရာ သဘောတူခွင့်ပြုခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ အထက်ပါမြေလွတ် တင်ဒါ(၂)ခုနှင့် ပတ်သက်ပြီး လုပ်ငန်းနေရာများအလိုက် ရွေးချယ်ထားမှုအား သိရှိနိုင်ပါရန် အကြောင်းကြားအပ်ပါသည်-

(က) လုပ်ငန်းနေရာ(၁)၊ ဥဒူလမ်း၊ ရွှေလေးဘုတာ ပါဆယ်(၂)ဝန်းခြေလွတ် လှုနေဆိုင် ခန်း (၄)ထပ်ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် ဦးသန်းဝင်းမြင့်နှာ-ရွှေလော်းကုမ္ပဏီလီမိတက် အားလည်းကောင်း၊

(ခ) လုပ်ငန်းနေရာ(၂)၊ ရွှေဥဒေါင်းတာပြည့်တိုက် အနေဘတ်ဘတ်ခြေလွတ်ကွင်း ပိုင်တယ်(၉) ထပ် ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် ဦးရွှေအောင်၊ SAKURA Trade Centre Co; Ltd အားလည်းကောင်း။

17/8-2011

(ကျော်ဆန်း)

တိုင်းဒေသကြီးဝန်ကြီး

မိတ္တူကို-

- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
- အထွေထွေမန်နေဂျာ(အထက်မြန်မာပြည်)မန္တလေး
- တိုင်းတာဝန်ခံ၊ တိုင်းအမှတ်(၃)၊မန္တလေး
- မန်နေဂျာ(စီးပွားရေး/တိုင်း)အမှတ်(၃)တိုင်း၊မန္တလေး
- တင်ဒါလျှော်ပြိုင်သူများအားလုံး
- ရုံးလက်ခံ/မျှော

နောက်ဆက်တွဲ "ဃ"

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရထားပို့ဆောင်ရေးဝန်ကြီးဌာန
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁/၇၁ (မမ) / ၂၀၁၄ ( ၁၃၆၅ )
ရက် စွဲ၊ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

အကြောင်းအရာ။ စာချုပ်ချုပ်ဆို၍ လုပ်ငန်းများဆက်လက်ဆောင်ရွက်ရန်ကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာ့မီးရထား၏ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၂၂)ရက်စွဲပါ စာအမှတ်၊ ၃၅၁-အလ-၂၀၁၄(၆၈၈)

၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီအစည်းအဝေးအမှတ်စဉ် (၃၄/၂၀၁၄) ဆုံးဖြတ်ချက်အရ မန္တလေးမြို့၊ မြန်မာ့မီးရထားပိုင် (၇၉)လမ်း၊ မန္တလေးဘူတာပါဆယ်(၂)ဝင်း မြေလွတ် (အလျား ၈၀၀ ပေ×အနံ ၄၀ပေ=၃၂၀၀၀ စတုရန်းပေ)တွင် လူနေဆိုင်ခန်းများ ဆောက်လုပ်ခြင်းအတွက် ဦးသန်းဝင်း၊ မြန်မာ-မန္တလေး ကုမ္ပဏီလီမိတက်နှင့်လည်းကောင်း၊ (၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား ရွှေဒေါင်း စာကြည့်တိုက် အနောက်ဘက် မြေလွတ် (အလျား ၁၁၃ပေ×အနံ ၁၀၀ပေ=၁၁၃၀၀ စတုရန်းပေ) တွင် အဆောက်အဦ ဆောက်လုပ်ခြင်းလုပ်ငန်းအတွက် ဦးဌေးအောင်၊ SAKURA Trade Center နှင့် လည်းကောင်း စာချုပ်ချုပ်ဆို၍ လုပ်ငန်းဆက်လက်ဆောင်ရွက်နိုင်ရန် တင်ပြလာမှုနှင့်ပတ်သက်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် အကြောင်းကြားပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဝင်းနောင် - ရုံးအဖွဲ့မှူး )

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

နောက်ဆက်တွဲ "င"

၂၂/၆၀
၂'၁၁၁




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အဆိုပြုချက် စိစစ်ရေးအဖွဲ့

ဖုန်း-၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/မ-၁၄၉၉ /၂၀၁၅ ( ၈၃၇ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၆ ရက်



သို့

ပြည်ထောင်စုဝန်ကြီးရုံး

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၏ (၂-၁၀-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂/ ၆၀ (MIC)/၂၀၁၅(၄၂၇၃)

၁။ Sakura Construction Group Co., Ltd. မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀') ၁၁၃၀၀ စတုရန်းပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက် တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ Sakura Construction Group Co., Ltd.မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.Tစနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက်အဦ အရွယ်အစား၊ ကားပါကင်ထားရှိမည့်နေရာ၊ စီးပွားရေး ဆိုင်ရာတွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ နှင့် ကုမ္ပဏီတို့ အဆိုပြုလုပ်ငန်းကို စည်းမျဉ်းစည်းကမ်းများနှင့်အညီ အကောင်အထည်ဖော်နိုင်ရေးအတွက် ပြန်လည်ညှိနှိုင်း၍ အဆိုပြုချက်အပေါ် လိုအပ်သည်များကို ပြင်ဆင်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

(အောင်နိုင်ဦး)

အဖွဲ့ခေါင်းဆောင်

မိတ္တူကို

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Sakura Construction Group Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ





# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ရထားပို့ဆောင်ရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ ၂/၆၁(MIC) / ၂၀၁၅ ( ၄၂၇၃ )

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီ လီမိတက်သို့ B.O.T စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏၂၀၁၅ ခုနှစ်၊ မတ်လ (၆)ရက်စွဲပါ စာအမှတ်၊ ၂/၆၁(MIC)/ ၂၀၁၅(၈၀၈)

၁။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော/အနာဂတ်စီမံကိန်းလျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန် ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့်ဆက်စပ်သော အကျိုးတူလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

၂။ အထက်ပါရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီးနယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃' × အနံ ၁၀၀')၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီ လီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရန် ကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီအစည်းအဝေး

အမှတ်စဉ် (၃၄/၂၀၁၄)က သက်ဆိုင်ရာ ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက်ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ ဆာကူရာကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာနှင့်အတူပေးပို့တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဇော်မင်းဦး - အမြဲတမ်းအတွင်းဝန်)

မိတ္တူ
- မြန်မာ့မီးရထား

# မြန်မာ့မီးရထားနှင့် SAKURA CONSTRUCTION GROUP CO,LTD တို့အကြား ချုပ်ဆိုသော တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်း စာချုပ်

ဤသဘောတူစာချုပ်ကို ၂၀၁၆ ခုနှစ်၊ လ ( )ရက်နေ့တွင် ------------------ မြို့၌ ဦးသုရိန်ဝင်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထားရုံးချုပ် ကိုယ်စားပြုသော မြန်မာ့မီးရထား (နောင်တွင် "လုပ်ငန်းခွင့်ပြုသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်-

နှင့်

ဒေါ်ယုယုဇော်၊ မှတ်ပုံတင်အမှတ် ------------------၊ ရာထူး ------------ ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြို့၊ တောင်ဥက္ကလာပမြို့နယ်၊ ချယ်ရီဥယျာဉ်မြို့တော်၊ ပန်းကြာဝတ်မှုံလမ်း၊ အမှတ်(၇၄)၊ ၁၄/၃ရပ်ကွက်တွင် တည်ရှိသည့် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသည့် SAKURA CONSTRUCTION GROUP CO,LTD (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့က အောက်ပါစည်းကမ်းချက်များနှင့်အညီ တည်ဆောက်၊ လုပ်ဆောင်၊ လွှဲပြောင်းခြင်း စာချုပ်ကို ချုပ်ဆိုကြပါသည်-

**လုပ်ငန်း**

(က) မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈လမ်း၊ (၇၇x၇၈)လမ်း ကြားတွင် တည်ရှိသည့် (၁၁၃ပေx၁၀၀ပေ) အကျယ်အဝန်းရှိသော အတည်ပြုပြီးမြေပုံ **နောက်ဆက်တွဲ(က)** တွင် ဖော်ပြထားသည့် မြေကွက်အား မြန်မာ့မီးရထားက တရားဝင်ပိုင်ဆိုင်သူဖြစ်ပါသည်။ အငှားချထားခြင်းခံရသူကလည်း ဖော်ပြပါမြေကွက်ပေါ်တွင် Basement ပါ (၉)ထပ် ခေတ်မီဟိုတယ် အဆောက်အအုံဆောက်လုပ်၍ လုပ်ငန်းလုပ်ကိုင်ရန် ဖြစ်ပါသည်။

(ခ) အငှားချထားခြင်းခံရသူက ၁၀၀% ရင်းနှီးမြှုပ်နှံ၍ အဆောက်အအုံဆောက်လုပ်ကာ ကနဦးနှစ်(၃၀) နှစ်ဘက်ညှိနှိုင်း ထပ်တိုး(၅)နှစ် (၂)ကြိမ် ငှားရမ်းလုပ်ကိုင်ရန် ဖြစ်ပါသည်။ **နောက်ဆက်တွဲမြေပုံ(က)** မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈လမ်း၊ (၇၇x၇၈)လမ်း ကြားရှိ မြေနေရာတွင် (အလျား ၉၄ပေ x အနံ ၇၉ပေ) အတိုင်းအတာရှိသည့် Basement ပါ (၉)ထပ်ခေတ်မီဟိုတယ် အဆောက်အအုံကို ကျပ်သိန်း(၈၀၀၀၀/-) (ကျပ် သိန်းရှစ်သောင်းတိတိ)အကုန်ကျခံ၍ ဆောက်လုပ်မည်ဖြစ်ပါသည်။

၁။ **အာမခံခြင်း (Warranty)နှင့် ကိုယ်စားပြုခြင်း(Representation)**

လုပ်ငန်းခွင့်ပြုသူနှင့် အငှားချထားခြင်းခံရသူတို့သည် သက်ဆိုင်ရာ ဥပဒေများအရ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤသဘောတူစာချုပ်ကို ချုပ်ဆိုရန် အခွင့်

အာဏာရှိသူနှင့် ငွေကြေးအင်အား တောင့်တင်းခိုင်မာသူများဖြစ်ကြောင်း အသီးသီးတင်ပြ တာဝန်ယူကြပါသည်။

၂။ **ငှားရမ်းသက်တမ်းကာလ**

(က) ဤစာချုပ်အရ မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀)ဖြစ်ပြီး ငှားရမ်းကာလထပ်မံတိုးမြှင့်လိုပါက နှစ်ဘက်ညှိနှိုင်း၍ တစ်ကြိမ်လျှင် (၅)နှစ်သက်တမ်း (၂)ကြိမ် တိုးမြှင့်ငှားရမ်းနိုင်ပါသည်။ ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ဖော်ပြပါမြေကို လုပ်ငန်းခွင့်ပြုသူက အငှားချထားခြင်းခံရသူသို့ မြေကိုလွှဲပြောင်းပေးရမည်။ အငှားချထားခြင်းခံရသူက တည်ဆောက်မည့် Basement ပါ (၉)ထပ်ခေတ်မီ ဟိုတယ်အဆောက်အအုံအား လုပ်ငန်းခွင့်ပြုသူ၏ အတည်ပြုချက်ရရှိပြီးသော ပုံစံ၊ စံချိန် စံညွှန်းများနှင့်အညီ တည်ဆောက်ရမည်ဖြစ်ပါသည်။

(ခ) အငှားချထားခြင်းခံရသူသည် မြေကို လွှဲပြောင်းလက်ခံရရှိသည့်နေ့မှစ၍ အဆောက်အအုံကို (၁၈) လအတွင်း အပြီးသတ်ဆောက်ရမည်။ (၁၈)လပြည့်သည်အထိ တည်ဆောက်ပြီးစီးခြင်း မရှိပါက (၁၈)လပြည့်သည့်နေ့မှစ၍ လစဉ်သတ်မှတ်ထားသော ငှားရမ်းခများကို ပေးသွင်းရမည်။ ငှားရမ်းကာလကိုလည်း (-------------)နေ့မှစ၍ နှစ်(၃၀) စတင်ရေတွက်မည်။

(ဂ) ငှားရမ်းသည့်မြေနှင့် ယင်းမြေပေါ်ရှိအဆောက်အအုံကို ကနဦး ငှားရမ်းသည့်ကာလ နှစ်(၃၀)စေ့ရောက်ပြီးနောက် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ နောက်ထပ် တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၂)ကြိမ်အထိ ဆက်လက်ငှားရမ်းခွင့်ရှိပါသည်။

၃။ **မြေအသုံးချမှုပရီမီယံ(Land Use Premium)**

အငှားချထားခြင်းခံရသူသည် မြေအသုံးချမှုပရီမီယံကြေးအဖြစ် ငွေကျပ်သိန်း(၂၅၀၀)(ကျပ် သိန်းနှစ်ထောင့်ငါးရာတိတိ)ကို လုပ်ငန်းခွင့်ပြုသူထံသို့ ဤသဘောတူစာချုပ်ကို အတည်ပြု လက်မှတ်ရေးထိုးသည့်နေ့မှ ရက် ပေါင်း(၃၀)အတွင်း အပြီးအပြတ် အကြေပေးသွင်းရမည်။ (ပျက်ကွက်ပါက စာချုပ်ရုပ်စဲခြင်း ခံရမည်။)

၄။ **ငှားရမ်းခပေးသွင်းခြင်း**

(က) အငှားချထားခြင်းခံရသူသည် မန္တလေးမြို့၊ ချမ်းအေးသာစံမြို့နယ်၊ ၂၈ လမ်း၊ (၇၇x၇၈)လမ်းကြားတွင် တည်ရှိသည့် (၁၁၃ပေ × ၁၀၀ပေ) အကျယ်အဝန်းရှိသော မြေကွက်ငှားရမ်းခအဖြစ် (၁)နှစ်လျှင် ငွေကျပ်သိန်း(၁၂၀၀/-)(ကျပ် သိန်းတစ်ထောင့်နှစ်ရာတိတိ)နှုန်းဖြင့် လုပ်ငန်းခွင့်ပြုသူထံသို့ ပေးချေရမည်။

(ခ) ငှားရမ်းခပေးသွင်းမှုနှင့် ပတ်သက်၍ (၁)နှစ်လျှင် (၂)ကြိမ် အောက်ပါအတိုင်း ကြိုတင်ပေးသွင်းရန် ဖြစ်ပါသည်-

(၁) ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အဆောက်အဦပြင်ဆင်ချိန် (၁၈)လ ပြည့်မြောက်ပြီး ရက်ပေါင်း(၃၀)အတွင်း နှစ်စဉ်သတ်မှတ်ထားသည့် ငှားရမ်းခဖြစ်သော ပထမ (၆)လအတွက် သိန်းပေါင်း၆၀၀ (ကျပ် သိန်းခြောက်ရာ တိတိ)ကို ပေးသွင်းရမည်။

(၂) ပထမအရစ်ပေးချေပြီးသည့်နေ့မှ (၆)လပြည့်ချိန်တွင် ဒုတိယအရစ်အဖြစ် ဒုတိယ(၆)လ အတွက် ငှားရမ်းခ သိန်းပေါင်း၆၀၀ (ကျပ် သိန်းခြောက်ရာ တိတိ)ကို ရက်ပေါင်း(၃၀) အတွင်း ပေးသွင်းရမည်။

(၃) နှစ်စဉ်သတ်မှတ်ထားသည့် ငှားရမ်းခကို (၆)လလျှင် (၁)ကြိမ် (၁)နှစ်(၂)ကြိမ်ခွဲ၍ ပေးသွင်း ရမည်။ငှားရမ်းခကို ပေးဆောင်ရန် အချိန်စေ့ရောက်ပြီးနေ့မှစ၍ ရက်ပေါင်း(၃၀)အတွင်း အငှားချားခြင်းခံသူသာ ပေးသွင်းရမည်။

(ဂ) လုပ်ငန်းခွင့်ပြုသူသည် ငှားရမ်းခနှုန်းထားများကို (၅)နှစ် (၁)ကြိမ် ပြန်လည်စိစစ်ခွင့်ရှိရမည်။ ထိုသို့ ပြင်ဆင်သတ်မှတ်သည့် နှုန်းထားသည် ပြီးခဲ့သော (၅)နှစ်တာကာလအတွက် သတ်မှတ်သည့် နှစ်စဉ် ငှားရမ်းခနှုန်းထား၏ (၁၀ %) (တစ်ဆယ်ရာခိုင်နှုန်း)ထက် မပိုစေဘဲ တိုးမြှင့်ပြင်ဆင်ခွင့်ရှိစေရမည်။ ယင်းသို့ ပြင်ဆင်တိုးမြှင့်သတ်မှတ်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(MIC)၏ အတည် ပြုချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

(ဃ) အငှားချထားခြင်းခံရသူက မြန်မာ့မီးရထားသို့ အထက်စာပိုဒ်၄(ခ)ပါအတိုင်း (၆)လလျှင် တစ်ကြိမ် ပေးသွင်းရမည့် ငှားရမ်းခကို သတ်မှတ်ရက်ထက် နောက်ကျပေးသွင်းပါက (၆)လစာငွေ၏ (၁%)နှင့် ညီမျှသော ဒဏ်ကြေးငွေကို (၁)ရက်စာ ဒဏ်ကြေးအဖြစ် သတ်မှတ်ပြီး နောက်ကျပေးသွင်းရက် ပေါ် မူတည်တွက်ချက်၍ လုပ်ငန်းခွင့်ပြုသူထံသို့ ပေးသွင်းရမည်။

**ပျက်ကွက်ခြင်းနှင့် တာဝန်**

၅။ အငှားချထားခြင်းခံရသူသည် ငှားရမ်းခပေးသွင်းခြင်းကို ခိုင်လုံသောအကြောင်းပြချက်မရှိဘဲ (၃၀)ရက်အထိ သာ နောက်ကျပေးသွင်းခွင့်ပြုမည်။ (၃၀)ရက်ထက် ကျော်လွန်ပျက်ကွက်ပါက လုပ်ငန်းခွင့်ပြုသူသည် စာချုပ်ကို တစ်ဖက်သတ် ရပ်ဆိုင်းပိုင်ခွင့်ရှိသည်။ ထို့အပြင် အငှားချထားခြင်းခံရသူက ပေးသွင်းထားသည့် ငွေကြေးအရပ်ရပ်ကို အငှားချထားခြင်းခံရသူသို့ ပြန်လည်ထုတ်ပေးခြင်းမပြုပဲ မြန်မာ့မီးရထားပိုင်အဖြစ် သိမ်းယူခြင်းခံရမည်။

၆။ **လုပ်ငန်းခွင့်ပြုသူ၏ တာဝန်များ**

လုပ်ငန်းခွင့်ပြုသူသည် အောက်ပါတို့ကို လိုက်နာဆောင်ရွက်ရမည်-

(က) အဆောက်အအုံ၏ ပုံစံဒီဇိုင်းများကိုလည်းကောင်း၊ ပြင်ဆင်ထားသည့် ပုံစံ၊ ဒီဇိုင်းကို လည်းကောင်း၊ တည်ဆဲဥပဒေ စည်းမျဉ်း စည်းကမ်းများနှင့် ညီညွတ်မှု ရှိ/မရှိ စိစစ်ပြီး သဘောတူခွင့်ပြုရမည်။

(ခ) လုပ်ငန်းခွင့်ပြုသူက စာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော်နိုင်ရန်အတွက် တတ်နိုင်သမျှ ကူညီဖြည့်ဆည်းပေးရမည်။

(ဂ) လိုအပ်သော ခွင့်ပြုချက်များ၊ မှတ်ပုံတင်များ၊ လိုင်စင်များကို သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဃ) ဆောက်လုပ်ပြီးစီးသော အဆောက်အအုံကို အငှားချထားခြင်းခံရသူက တည်ဆဲဥပဒေ၊ စည်းမျဉ်း စည်းကမ်းများနှင့်အညီ ထပ်ဆင့်ငှားရမ်းခြင်း၊ ပူးပေါင်းဆောင်ရွက်လိုခြင်းကို စိစစ်ခွင့်ပြုရမည်။

(င) လုပ်ငန်းခွင့်ပြုသူက ရေ၊ လျှပ်စစ် ရရှိရေးအတွက် ကူညီဆောင်ရွက်ပေးရမည်ဖြစ်သော်လည်း မြန်မာ့မီးရထားဓါတ်အားလိုင်းမှ ဓါတ်အားမပေးနိုင်သဖြင့် လျှပ်စစ်ဓါတ်အား ရရှိရေးအတွက် လိုအပ်သော ကူညီပံ့ပိုးမှုကိုလည်းကောင်း၊ မလွတ်ကင်းသော ဓါတ်အားလိုင်းများရွှေ့ပြောင်းရာတွင် မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်းသို့ဆက်သွယ် ဆောင်ရွက်ခြင်းများအတွက်လည်းကောင်း ကူညီ ပံ့ပိုး ဆောင်ရွက်ပေးရမည်။

(စ) ငှားရမ်းထားသည့် မြေကွက်အတွက် မြေခွန်ကို ပေးဆောင်ရမည်။ အငှားချထားခြင်းခံရသူသို့ မြေကို ငှားရမ်းလုပ်ကိုင်ခွင့်ပြုရမည်။

(ဆ) အငှားချထားခြင်းခံရသူက မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်သက်သာခွင့်နှင့် ကင်းလွတ်ခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားခြင်းခံရသူက အဆောက်အအုံ ဆောက်လုပ်ရေးအတွက် လိုအပ်သော ပစ္စည်းများကို ပြည်ပမှ မှာယူရန်လိုအပ်ပါက ပစ္စည်းများ ပြည်ပမှသယ်ယူရေးအတွက် ကူညီဆောင်ရွက်ပေးရမည်။

(ဈ) လုပ်ငန်းခွင့်ပြုသူသည် အငှားချထားခြင်းခံရသူက အဆောက်အအုံတည်ဆောက်ရာတွင် ပုံစံဒီဇိုင်းကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိ/မရှိနှင့် စံချိန်စံညွှန်းအရည်အသွေးစစ်ဆေးရေးအဖွဲ့ကို ဖွဲ့စည်းတာဝန်ပေးအပ်ထားရမည်။

(ည) အဆောက်အအုံများ ဆောက်လုပ်ရန်အတွက် တည်ဆောက်ရေးကာလအဖြစ် (၁၈)လသတ်မှတ်၍ ငှားရမ်းခကင်းလွတ်ခွင့်ပြုပြီး တည်ဆောက်ခွင့်ပြုရမည်။

## ၇။ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ

အငှားချထားခြင်းခံရသူသည် အောက်ပါတို့ကို လိုက်နာဆောင်ရွက်ရမည်-

(က) ငှားရမ်းသည့်မြေအပေါ်တွင် သတ်မှတ်ကာလအတွင်း လုပ်ငန်းခွင့်ပြုသူက အတည်ပြုပြီးသော ပုံစံ၊ ဒီဇိုင်းအတိုင်း သံကူအားဖြည့် ကွန်ကရစ်အမျိုးအစား(အလျား၉၄ပေ x အနံ ၇၉ပေ) ရှိ Basement ပါ ခေတ်မီ(၉)ထပ် ဟိုတယ်အဆောက်အအုံကို မိမိစရိတ်ဖြင့် ရာနှုန်းပြည့်ရင်းနှီးမြှုပ်နှံ တည်ဆောက်ရမည်။ အတည်ပြုပြီးသော ပုံစံဒီဇိုင်းမှ အဓိကပြောင်းလဲပြင်ဆင် တိုးချဲ့မှုတိုင်းကို လုပ်ငန်းခွင့်ပြုသူထံမှ ကြိုတင်သဘောတူညီချက်ရပြီးမှသာ ဆောင်ရွက်ခွင့်ရှိသည်။

(ခ) အငှားချထားခြင်းခံရသူသည် ဤစာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့် နေ့မှစ၍ လုပ်ငန်းများကို စတင်ဆောင်ရွက်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် ဟိုတယ်အဆောက်အအုံ မဆောက်လုပ်မီ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ လျှောက်ထားရယူရမည်။

(ဃ) လုပ်ငန်းခွင့်ပြုသူထံမှ မြေကိုလွှဲပြောင်း လက်ခံရရှိသည့် နေ့မှစ၍ အဆောက်အအုံများဆောက်လုပ်ခြင်းကို (၁၈)လအတွင်း အပြီးတည်ဆောက်သွားရမည်။ (၁၈)လအတွင်းမပြီးစီးပါက ငှားရမ်းကာလကို (၁၈)လပြည့်သည့်နေ့မှစ၍ စတင်ရေတွက်ခြင်းခံရမည်။ (၁၈)လထက်စော၍ ဆောက်လုပ်ပြီးစီးပါက ဆောက်လုပ်ပြီးစီးသည့်နေ့မှစ၍ ငှားရမ်းကာလသတ်မှတ်ပြီး ငှားရမ်းခများ ပေးသွင်းရမည်။

(င) အဆောက်အအုံများ ဆောက်လုပ်မည့် အင်ဂျင်နီယာပုံစံ ခန့်မှန်းကုန်ကျစရိတ်နှင့် လုပ်ငန်းအချိန်ဇယားကို လုပ်ငန်းခွင့်ပြုသူထံသို့ပေးပို့တင်ပြရမည်။

(စ) အငှားချထားခြင်းခံရသူသည် လုပ်ငန်းခွင့်ပြုသူ (သို့မဟုတ်) ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ ဤစာချုပ်အရ အကျုံးဝင်သော လုပ်ဆောင်ချက်များနှင့် ပတ်သက်သည့် သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း ပြုစုတင်ပြရမည်။

(ဆ) အငှားချထားခြင်းခံရသူသည် ငှားရမ်းထားသည့်မြေ၏ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ မြေကွက် တစ်ကွက်လုံးကိုသော်လည်းကောင်း၊ ထပ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံရောင်းချခြင်း၊ အခြားနည်းဖြင့် လွှဲပြောင်းပေးခြင်းတို့ကို လုံးဝမပြုလုပ်ရ။

(ဇ) မြေခွန်မှအပ အခြားသက်ဆိုင်ရာ အခွန်များကို အငှားချထားခြင်းခံရသူက ပေးဆောင်ရမည်။

(ဈ) အငှားချထားခြင်းခံရသူသည် လုပ်ငန်းအတွက် လိုအပ်သော အာမခံများကို တည်ဆဲဥပဒေများနှင့် အညီထားရှိရမည်။

(ည) မြေငှားရမ်းခများကို သတ်မှတ်ထားသော နှုန်းထား၊ သတ်မှတ်ထားသည့် နည်းလမ်းများအတိုင်း အတိအကျ ပေးဆောင်ရမည်။

(ဋ) စာချုပ်ချုပ်ဆိုရာတွင် ကျသင့်သည့် ရုံးခွန်တံဆိပ်ခေါင်းတန်ဘိုးကို ကျခံရမည်ဖြစ်ပြီး တည်ဆဲဥပဒေများအရ ထမ်းဆောင်ရမည့် အခြားအခွန်အခများကိုလည်းပေးဆောင်ရမည်။

(ဌ) ငှားရမ်းထားသည့် မြေပေါ်တွင် မူးယစ်ဆေးဝါးသိုလှောင်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်း၊ သုံးစွဲခြင်း အပါအဝင် တည်ဆဲဥပဒေများနှင့်ဆန့်ကျင်သည့် မည်သည့်လုပ်ငန်းကိုမျှ ဆောင်ရွက်ခြင်းမပြုရ။

(ဍ) ငှားရမ်းထားသည့်မြေပေါ်တွင် အဆောက်အအုံများတည်ဆောက်ရာ၌ ပတ်ဝန်းကျင်သို့ ထိခိုက်အန္တရာယ်မဖြစ်စေရေးအတွက် တာဝန်ယူစီမံဆောင်ရွက်ပေးရမည်။

(ဎ) ငှားရမ်းထားသည့်မြေပေါ်တွင် အဆောက်အအုံများ တည်ဆောက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်

ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို စနစ်တကျထားရှိဆောင်ရွက်ရမည်။

(ဏ) အငှားချထားခြင်းခံရသူက အဆောက်အအုံတည်ဆောက်ရာတွင် ပုံစံဒီဇိုင်းကို တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိ/မရှိနှင့် စံချိန်စံညွှန်းအရည်အသွေး စစ်ဆေးခြင်း အတွက် သက်ဆိုင်ရာမြို့နယ် အဖွဲ့အစည်းများက လာရောက်စစ်ဆေးချိန်တွင် လုပ်ငန်းခွင့်ပြုသူက တာဝန်ပေးအပ်ထားသော အဖွဲ့ကို အကြောင်းကြားရမည်။ လုပ်ငန်းခွင့်ပြုသူက တာဝန်ပေးအပ်ထား သောအဖွဲ့မှ စစ်ဆေးမှုကိုလည်းခံယူရမည်။

(တ) အငှားချထားခြင်းခံရသူက အဆောက်အအုံတည်ဆောက်ရာတွင် ပုံစံဒီဇိုင်းကို မန္တလေးမြို့တော်စည် ပင်သာယာရေးကော်မတီအပါအဝင် သက်ဆိုင်ရာဌာနများသို့ ကြိုတင်တင်ပြခွင့်ပြုချက်ရယူ ဆောင် ရွက်ရမည်။

( ထ ) သတ်မှတ်သက်တမ်းတိုးရန်ကာလ စေ့ရောက်ချိန်တွင် အပိုဒ်၄(ဂ)တွင် သဘောတူညီထားသည့် (၁၀%)ထက် ပိုမိုတိုးမြှင့်မည့် အခြေအနေဖြစ်ပေါ်နေပါက နှစ်ဦးနှစ်ဖက် ညှိနှိုင်းသဘောတူညီချက် ဖြင့် ဈေးနှုန်းပြင်ဆင်သတ်မှတ်မှုကိုဆောင်ရွက်ရမည်။ (ပိုမိုတိုးမြှင့်မည့် အခြေအနေဆိုသည်မှာ (၅)နှစ်ပြည့်သော ကာလတွင် ဒေသပေါက်ဈေးအရ ငှားရမ်းခကို (၁၀%)ထက် ပိုမိုသင့်က ပိုမိုတိုးမြှင့် မည်ဟု ဆိုလိုပါသည်။)

( ဒ ) အငှားချထားခြင်းခံရသူ၏ ရေ၊ လျှပ်စစ်ရရှိရေးအတွက် လုပ်ငန်းခွင့်ပြုသူက မြန်မာ့လျှပ်စစ် ဓါတ်အား လုပ်ငန်းသို့ ဆက်သွယ်ဆောင်ရွက်ချင်းများ ကူညီပံ့ပိုးဆောင်ရွက်ပေးမည် ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အားရရှိရေးအတွက်လိုအပ်သောပစ္စည်းနှင့် ကျသင့်ကုန်ကျစရိတ်များကို အငှား ချထားခြင်းခံရသူက ကျခံရမည်။

(ဓ) အငှားချထားခြင်းခံရသူက ဆောက်လုပ်ပြီးသော အဆောက်အအုံကို ထပ်ဆင့်ငှားရမ်းမည်ဆိုပါက ၎င်းမြေသည် မြန်မာ့မီးရထားပိုင်မြေဖြစ်ကြောင်း အငှားချထားခြင်းခံရသူသို့ (၃၀+၅+၅)နှစ်သာ လုပ်ကိုင်ခွင့်ပြုထားခြင်းကြောင်း ဖော်ပြရမည်။

၈။ **စာချုပ်စတင်အကျိုးသက်ရောက်သည့်နေ့**

ဤစာချုပ်သည် မြန်မာ့နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၊ စီးပွားရေးရာကော်မ တီအပါအဝင် သက်ဆိုင်ရာဌာနများ၏ သဘောတူခွင့်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

၉။ **မြေနှင့် အဆောက်အအုံများ လွှဲပြောင်းပေးခြင်း**

ငှားရမ်းကာလ နှစ်(၃၀)ကုန်ဆုံးသည့်အခါဖြစ်စေ၊ ငှားရမ်းခြင်း ရပ်စဲသောအခါဖြစ်စေ ယင်းနေ့မှ(      )ရက်

အတွင်း အငှားချထားခြင်းခံရသူသည် မြေနှင့်တကွ အဆောက်အအုံအပါအဝင် အဆောက်အအုံနှင့် ဆက်စပ်ပတ်သက်နေသော ပစ္စည်းအားလုံးကို မွမ်းမံထားရှိပြီး ကောင်းမွန်စွာ ပုံမှန်အသုံးပြုနိုင်သည့် အခြေအနေအတိုင်း လုပ်ငန်းခွင့်ပြုသူ ထံသို့ အဖိုးစားနားမဲ့ လွှဲပြောင်းဖပေးရမည်။

၁၀။ **ကြိုတင်စည်းကမ်းသတ်မှတ်ချက်**

ဤစာချုပ်ကို ဆောင်ရွက်ခြင်းနှင့် အကောင်အထည်ဖော်ခြင်းတို့သည် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရဌာနများ၊ အဖွဲ့အစည်းများထံမှ လိုအပ်သည့် သဘောတူညီချက်များ၊ ခွင့်ပြုချက်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လုပ်ဆောင်ခွင့်ပြုချက်များရရှိပြီးမှ အပေါ်တွင် တည်ရှိပါသည်။

၁၁။ **စာချုပ်ရုပ်စဲခြင်း**

အောက်ဖော်ပြပါ အခြေအနေအဖြစ်အပျက်များ ပေါ်ပေါက်သည့်အခါတွင် စာချုပ်ရုပ်စဲသွားစေမည်-

(က) စာချုပ်ဝင် တစ်ဘက်ဘက်က စာချုပ်စည်းကမ်းချက် တရပ်ရပ်ကို ဖောက်ဖျက်သည့်အခါ၊

(ခ) အငှားချထားခြင်းခံရသူသည် လူမွဲအဖြစ် ခံယူသည့်အခါ၊

(ဂ) မတားဆီးနိုင်သော ဖြစ်ရပ်တစ်ခုသည် တစ်ဆက်တည်း (၆)လထက်ကျော်လွန်၍ ဖြစ်ပွားနေသောအခါ၊

(ဃ) စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါ၊

(င) စာချုပ်ကို ရုပ်စဲရန် နှစ်ဦးနှစ်ဖက်က စာဖြင့်ရေးသားရန် သဘောတူသည့်အခါ၊

၁၂။ အထက်ဖော်ပြပါ အကြောင်းအရာများကြောင့် စာချုပ်ရုပ်စဲသည့်အခါ စာချုပ်ရုပ်စဲပြီးနောက်(၆)လအတွင်း မြေနှင့်တကွ မြေပေါ်ရှိ အဆောက်အအုံအပါအဝင် ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများမှအပ ပုံသေတပ်ဆင်ထားသော ပစ္စည်းများအပါအဝင် အားလုံးတို့ကို ကောင်းမွန်သော အနေအထားဖြင့် အငှားချထားခြင်းခံရသူမှ လုပ်ငန်းခွင့်ပြုသူထံသို့ အဖိုးစားနားမဲ့ ပြန်လည်ပေးအပ်ရမည်။

၁၃။ **မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

ဤစာချုပ်အရ ဆောင်ရွက်ရမည့် တာဝန်ဝတ္တရားများကို မလွန်ဆန်နိုင်သေးသော ဖြစ်ရပ်ကြောင့် တစ်စိတ်တစ်ဒေသဖြစ်စေ၊ လုံးဝဖြစ်စေ၊ မထမ်းဆောင်နိုင်လျှင် ထိုသို့မထမ်းဆောင်နိုင်သူဖက် အခြားတစ်ဖက်သို့ (၁၄)ရက်အတွင်း ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကို အသေးစိတ် စာဖြင့်ရေးသားကာ အကြောင်းကြားရမည်။ အခြားတစ်ဖက်က လက်ခံအတည်ပြုလျှင် တာဝန်ဝတ္တရားများ ထမ်းဆောင်ခြင်းကို မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်နေစဉ် ကာလအတွင်း ဆိုင်းငံ့ထားနိုင်သည်။ ထိုမလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ကြန့်ကြာမှုအတွက် မည်သူ့တွင်မှ တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သော ဖြစ်ရပ်ဆိုသည်မှာ သဘာဝဘေးဒုက္ခများ၊ ငလျင်လှုပ်ခြင်း၊ သပိတ်မှောက်ခြင်း၊ ပြည်သူ့ ရန်သူနှင့် လုပ်ဆောင်ချက်များ၊ ပိတ်ဆို့မှုများ၊ သူပုန်ထခြင်းများ၊ အဓိကရုဏ်းဖြစ်ခြင်းများ၊ အရပ်ဖက်နှောင့်ယှက် ဖျက်ဆီးခြင်းများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်းများ၊ ရေကြီးခြင်းများ၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် အခြားအလားတူ အကြောင်းများဖြစ်ပြီး သက်ဆိုင်ရာ စာချုပ်ဝင်က ထိုက်သင့်သော ဂရုစိုက်မှု၊ ဇွဲ၊ လုံ့လ

တို့နှင့် ထိန်းချုပ်၍မရဘဲ ကျော်လွှားရန် မတတ်စွမ်းနိုင်သောဖြစ်ရပ်များကို ဆိုလိုပါသည်။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ် ဖြစ်ပွားနေသည့် ကာလများကိုငှားရမ်းခြင်း သက်တမ်းတွင် ထည့်သွင်းရေတွက်ခြင်း မပြုဘဲ ထုတ်ပယ်ခွင့် ရှိစေရမည်။

၁၄။ **အနုညာတ စီရင်ဆုံးဖြတ်ခြင်း**

ဤသဘောတူစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်ပါက ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏ ဦးဆောင်မှုကိုခံယူခြင်းနှင့် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်း ဖြေရှင်းရမည်။ ထိုသို့ ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို စာချုပ်ဝင်တစ်ဖက်စီက တစ်ဦးစီခန့်ထားသော ခုံလူကြီး နှစ်ဦးဖြင့် ဖြေရှင်းရမည်။ ထိုခုံလူကြီးနှစ်ဦးက ဖြေရှင်းမဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးက ရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးအပြတ်ဖြစ်စေရမည့်အပြင် နှစ်ဘက်စာချုပ်ဝင်များအပေါ် အတည်ဖြစ်စေရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်ငန်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအနုညာတအက်ဥပဒေ (မြန်မာနိုင်ငံ အက်ဥပဒေ အမှတ် ၄/၁၉၄၄)နှင့် နောက်ပိုင်း ပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင် ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ နေပြည်တော်ဖြစ်ရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

၁၅။ **ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း**

အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်နေသည့် နေရာနှင့်အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထု၊ ရေထု ညစ်ညမ်းမှုမရှိစေရန်နှင့် မိမိလုပ်ငန်းမှ ထွက်ရှိသည့် အညစ်အကြေး၊ အမှိုက်နှင့် ရေဆိုးများ သန့်စင်စေရန် စီမံခြင်း၊ ရေလွှတ်စနစ်ထားရှိခြင်းတို့ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၆။ **ဓာတ်သတ္တုအရင်းအမြစ်များ**

ဤစာချုပ်ပါ ကာလအတွင်း ငှားရမ်းထားသည့် မြေမှမမျှော်လင့်ဘဲ ဓာတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများ တွေ့ရှိလျှင် လုပ်ငန်းခွင့်ပြုသူသို့ အကြောင်းကြားရမည်ဖြစ်ပြီး ထိုပစ္စည်းများကို နိုင်ငံတော်က ပိုင်ဆိုင်ရမည့်အပြင် လုပ်ငန်းခွင့်ပြုသူသည် သက်ဆိုင်ရာ နိုင်ငံတော်အစိုးရ အဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြခွင့်ရှိစေရမည်။ ထို့ပြင် လုပ်ငန်းခွင့်ပြုသူသည် အဆိုပါပစ္စည်းများကို မည်သည့်အချိန်တွင်မဆို ဥပဒေနှင့်အညီ လွှတ်လပ်စွာတူးဖော်ခွင့်ရှိစေရမည်။

၁၇။ **စာချုပ်အား ပြင်ဆင်ဖြည့်စွက်ခြင်း**

ဤသဘောတူစာချုပ်အား စာဖြင့် နှစ်ဦးနှစ်ဖက် သဘောတူညီမှုမရှိဘဲ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း လုံးဝ မပြုလုပ်ရ။ ဤသဘောတူစာချုပ်တွင် မဖော်ပြမိခဲ့သော အချက်အလက်(သို့မဟုတ်) အခြေအနေ တစ်ရပ်ရပ် ပေါ်ပေါက်ပြီး စာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ဤစာချုပ်ကို ပြင်ဆင်နိုင်သည်။

သို့သော် စာချုပ်၏ မူလရည်ရွယ်ချက်ကို မပျက်ပြယ်စေရ။ ဤသဘောတူစာချုပ်ကို ပြင်ဆင်ဖြည့်စွက်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်စေရမည်။ အဆိုပါ ပြင်ဆင်ဖြည့်စွက်ချက်များသည် ဤသဘောတူစာချုပ်၏ အစိတ်ပိုင်းတစ်ရပ်ဖြစ်ရမည်။

၁၈။ **အကျိုးသက်ရောက်မှု**

ဤသဘောတူစာချုပ်သည် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

၁၉။ **စာချုပ် အစိတ်အပိုင်းများ**

ဤစာချုပ်၏ **နောက်ဆက်တွဲ** များသည် ဤစာချုပ်၏ တစ်လုံးတစ်စည်းတည်းသော အစိတ်အပိုင်းများ ဖြစ်ရမည်။

၂၀။ **ငှားရမ်းထားသည့်မြေနှင့် အဆောက်အဦကိုပြန်လည်ဝင်ရောက်ပိုင်ခွင့်**

အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် လုပ်ငန်းခွင့်ပြုသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှု မရှိပါက လုပ်ငန်းခွင့်ပြုသူသည် အငှားချထားသည့်မြေနှင့် အဆောက်အဦသို့ ပြန်လည်ဝင်ရောက်၍ လက်ရောက်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် လုပ်ငန်းခွင့်ပြုသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ(သို့မဟုတ်) ပျက်စီးဆုံးရှုံးမှုများအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်း မရှိစေရ။

၂၁။ **စာပေးစာယူပြုရန် လိပ်စာများ**

လုပ်ငန်းခွင့်ပြုသူနှင့် အငှားချထားခြင်းခံရသူတို့ကြား စာဆက်သွယ်ခြင်း၊ အကြောင်းကြားစာ ပေးပို့ခြင်းများကို အောက်ပါအတိုင်း ဆက်သွယ်ဆောင်ရွက်ရမည် -

| **လုပ်ငန်းခွင့်ပြုသူအတွက်** | **အငှားချထားခြင်းခံရသူအတွက်** |
|---|---|
| ဦးသူရိန်ဝင်း | ဒေါ်ယုယုဇော် |
| ဦးဆောင်ညွှန်ကြားရေးမှူး | SAKURA CONSTRUCTION GROUP CO,LTD |
| မြန်မာ့မီးရထားရုံးချုပ် | အမှတ်(၇၄)၊၁၄/၃ရပ်ကွက် |
| ဖုန်း - ၀၆၇ -၇၇၀၀၁ | ပန်းကြာဝတ်မှုံလမ်း၊ချယ်ရီဥယျာဉ်မြို့တော် |
| ဖက်စ် - ၀၆၇ - ၇၇၀၀၃ | တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ |
| | ဖုန်း - ၀၁-၈၅၀၀၆၈၂၊၀၁-၈၅၀၀၆၈၇ |
| | - ၀၁-၅၆၃၀၆၅ |
| | ဖက်စ် - |

D:\MP-4\Sama-8\Bond\Sakura Trade Centre Co Bond Second.doc

ဖော်ပြပါ အချက်အလက်များကို သိရှိသဘောပေါက်နားလည်ပြီးသည့် အလျောက် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် တို့သည် ဤစာချုပ်ပါ အထက်တွင်ဖော်ပြထားသော နှစ်၊ လ၊ ရက်၌ မိမိတို့၏ လက်မှတ်နှင့် တံဆိပ်များကို အောက်တွင် ရေးထိုးရိုက်နှိပ်ကြပါသည်။

**လုပ်ငန်းခွင့်ပြုသူကိုယ်စား**

လက်မှတ် ...................................................
အမည် ...................................................
မှတ်ပုံတင်အမှတ်...................................................
ရာထူးအဆင့် ...................................................

**အငှားချထားခြင်းခံရသူကိုယ်စား**

လက်မှတ် ...................................................
အမည် ...................................................
မှတ်ပုံတင်အမှတ်...................................................
ရာထူးအဆင့်........................................................

**အသိသက်သေများ**

(၁) လက်မှတ် ....................................
အမည် ....................................
ရာထူး ....................................
လိပ်စာ ....................................

(၂) လက်မှတ် ....................................
အမည် ....................................
ရာထူး ....................................
လိပ်စာ ....................................

မြန်မာ့မီးရထား

ရွှေဥဒေါင်းစာကြည့်တိုက်အနောက်

မန္တလေး



ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ် လ ၁၅ ရက်

အကြောင်းအရာ။ **မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား Sakura Construction Group Co., Ltd. သို့ B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု ပြန်လည်တင်ပြလာခြင်းကိစ္စ**

၁။ Sakura Construction Group Co., Ltd. မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ ၇၈)လမ်းကြား ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ အလျား ၁၁၃' x အနံ ၁၀၀' အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး အထပ်(၉)ထပ်ရှိ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။ အလံ "၁"

၂။ ယင်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ အောက်ပါအတိုင်း တင်ပြထားပါသည်-

(က) ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉) ကွက်အား ထိရောက်စွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိစေရန် ပြည်တွင်းလုပ်ငန်းရှင်များကို တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ၏ ၁၉/၂၀၁၃ (၁၃-၁၁-၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော် သမ္မတကြီးထံ တင်ပြခဲ့ပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူရန် လမ်းညွှန်ခဲ့ပြီး နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါကြောင်း။

(ခ) မန္တလေးဘူတာကြီး နယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့် ပူးပေါင်း၍ BOT စနစ်ဖြင့် နှစ်ရှည် ငှားရမ်းလုပ်ကိုင် နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူ ဆောင်ရွက်ခဲ့ပါကြောင်း။

(ဂ) တင်ဒါစိစစ်ရွေးချယ်ရေး ကော်မတီ၏ အတည်ပြုချက်အရ မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃' x အနံ ၁၀၀')တွင် ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခြင်းအတွက် Sakura Construction Group Co., Ltd.နှင့် စာချုပ်ချုပ်ဆိုခြင်းလုပ်ငန်း ဆောင်ရွက်ရန် ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ၏ ၃၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ထုံး လုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါကြောင်း။

Sakura Ns

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

(ဃ) မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ Sakura Construction Group Co., Ltd. သို့ BOT စနစ်ဖြင့် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းဖြစ်ပါကြောင်း။

၃။ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက်အဦ အရွယ်အစား၊ ကားပါကင်ထားရှိမည့် နေရာ၊ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ အလံ "၂"

၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၅ ရက်နေ့ပါစာဖြင့် တင်ပြလာခြင်းအပေါ် ယခင်တင်ပြသည့်အဆိုပြုချက်နှင့် ယခုတင်ပြသည့် အဆိုချက်အား အောက်ပါအတိုင်း နှိုင်းယှဉ်တင်ပြအပ်ပါသည်- အလံ "၃"

| စဉ် | အကြောင်းအရာ | ယခင်အဆိုပြုချက် | ယခုပြင်ဆင်တင်ပြသည့် အဆိုပြုချက် |
|---|---|---|---|
| (က) | ရင်းနှီးမြှုပ်နှံမှု | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| (ခ) | ကုမ္ပဏီအမည် | Sakura Construction Group Co., Ltd. | Ritzland Group Co., Ltd. (British Virgin Island) ၈၅%<br>Sakura Construction Group Co., Ltd. (မြန်မာနိုင်ငံ) ၁၅% |
| (ဂ) | တည်နေရာ/ အကျယ်အဝန်း | မြန်မာ့မီးရထားပိုင် မန္တလေးတိုင်း ဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ ၇၈)လမ်းကြား ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေ အလျား ၁၁၃' x အနံ ၁၀၀ | မြန်မာ့ မီးရထားပိုင် မန္တလေးတိုင်း ဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ ၇၈)လမ်းကြား ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေ အလျား ၁၁၃' x အနံ ၁၀၀ |
| (ဃ) | လုပ်ငန်းအမျိုးအစား | Basement အပါအဝင် အထပ် (၉)ထပ်ရှိ အခန်း (၁၈၀) ခန်း ပါ ဟိုတယ်ဝန်ဆောင်မှု | မြေအောက်ထပ်+RC (၁၁)ထပ်ရှိ အခန်း (၁၆၁)ခန်းပါ ဟိုတယ် ဝန်ဆောင်မှု |
| (င) | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ကျပ် ၁၄၁၈၀ သန်း (US$ ၆.၃၀သန်းခန့် အပါအဝင်) | US$ ၈.၀၀ သန်း |
| (စ) | အဆောက်အဦ ပုံစံ | PAT အစည်းအဝေးတွင် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ပြင်ဆင်ရန် ဆွေးနွေးပါသည်။ | မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ပြင်ဆင် တင်ပြလာပါသည်။ |

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ယခင် အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြစဉ်က ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းကို Sakura Construction Group Co., Ltd. မှ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ရန် ဖြစ်သော်လည်း ယခုပြင်ဆင်တင်ပြလာသည့်အခါ British Virgin Island တွင်ဖွဲ့စည်းထားသော Ritzland Group Co., Ltd. မှ ၈၅% နှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသော Sakura Construction Group Co., Ltd. မှ ၁၅% ဖြင့် အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Rice and Rich Hotel Co., Ltd. အမည်ဖြင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း တင်ပြလာသည်ကို စိစစ်တွေ့ရှိရပါသည်။

(ခ) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုနှင့်စပ်လျဉ်း၍ Sakura Construction Group Co., Ltd. မှ မြန်မာ့မီးရထားသို့ တင်ပြထားသည့်စာမိတ္တူ ပူးတွဲတင်ပြထားသော်လည်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့ပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြသည့် အပေါ်စာတွင် မြန်မာ့မီးရထားပိုင်မြေအား Sakura Construction Group Co., Ltd. တစ်ခုတည်းကိုသာ B.O.T စနစ်ဖြင့် ငှားရမ်း၍ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေငှားရမ်းခွင့်အား Sakura Construction Group Co., Ltd. မှ တင်ဒါအောင်မြင်ခဲ့ခြင်းဖြစ်ပြီး Sakura Construction Group Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်လိုခြင်းကို ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ သဘောတူ ခွင့်ပြုပါက ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်အား ပြန်လည်တင်ပြရန် လိုအပ်ပါသည်။

(ဂ) ထို့ပြင် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထား တောင်းခံခဲ့သည့် BOT စာချုပ်(မူကြမ်း) မှာ ပို့ဆောင်ရေးနှင့် ဆက်သွယ်ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက ဖက်စပ်ကုမ္ပဏီ Rice and Rich Hotel Co., Ltd. နှင့် ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားတောင်းခံပြီး သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရမည်ဖြစ်ပါသည်။

(ဃ) Sakura Construction Group Co., Ltd. မှ ဆောက်လုပ်မည့် မြေအောက်ထပ်+RC (၁၁)ထပ် ရှိဟိုတယ် ဆောက်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

မန္တလေးမြို့တော် စည်ပင်သာယာ ရေးကော်မတီမှ စည်းမျဉ်း စည်းကမ်း နှင့် ကိုက်ညီမှုရှိကြောင်း ထောက်ခံထားပြီး အဆောက်အဦပုံစံတွင်လည်း အထပ် ၁၁ ထပ်ရှိကြောင်း စိစစ်တွေ့ရှိရသော်လည်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင် Basement အပါအဝင် အထပ် (၉)ထပ်ရှိ ဟိုတယ် အဆောက်အဦဟု ဖော်ပြထားသဖြင့် အထပ်အရေအတွက်အား ပြန်လည် စိစစ်တင်ပြရန် လိုအပ်ပါသည်။

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေသည် မြန်မာ့မီးရထားမှ ပိုင်ဆိုင်သည့် မြေဖြစ်သဖြင့် Sakura Construction Group Co., Ltd. သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ယခင် အစိုးရလက်ထက်က တင်ဒါစနစ်ဖြင့် အောင်မြင်ခဲ့သည့် မြေဖြစ်ကြောင်း စိစစ်တွေ့ရှိရသဖြင့် ယခုအစိုးရ လက်ထက် တွင် မြေအသုံးပြုမှုနှင့်စပ်လျဉ်း၍ အထက်အဖွဲ့အစည်း၏ ခွင့်ပြုချက် ထပ်မံရယူ ရန် လို-မလို လမ်းညွှန်မှုခံယူအပ်ပါသည်။

၆။ သို့ဖြစ်ပါ၍ Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့ မီးရထားပိုင်မြေတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် ပြန်လည် တင်ပြ လာခြင်း နှင့်စပ်လျဉ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက ပြင်ဆင် တင်ပြရန် လိုအပ်ချက်များကို ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနသို့ အကြောင်း ပြန်ကြားရန်အပေါ် **စာကြမ်း**နှင့်အတူ လမ်းညွှန်မှုခံယူအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|
| 15/8/16 | 15/8/16 | 15.8.16 |
| နှင်းဖြူထွေး | မင်းလွင်ဆွေ | ခင်သက်မော် |
| ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး | ဒုတိယညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၁။ [illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ မရက-၄/မ-၁၄၉၉ / ၂၀၁၆ ( ၈ ၃ ၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ် လ ၁၅ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား Sakura Construction Group Co., Ltd. သို့ B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီး ဌာနမှတစ်ဆင့် အဆိုပြု ပြန်လည်တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ (၂-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ၂/ ၆၁ (MIC)/ ၂၀၁၅(၄၂၇၃)

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၆-၁၀-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၉၉/၂၀၁၆(၈၃၇)

(၃) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ (၅-၈-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရထ-၂/ရန(MIC)/ ၂၀၁၆(၁၇၄၁)

၁။ Sakura Construction Group Co., Ltd. မှ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်း ပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပခဲ့သည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်ချက်များ အားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက် ပြန်လည်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ ပါသည်။

၂။ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်၍ ရည်ညွှန်း(၃)ပါစာဖြင့် ပြန်လည်တင်ပြလာသော အဆိုပြုချက်တွင် အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်နေကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) မြန်မာနိုင်ငံတွင် ဖွဲ့စည်းထားသည့် Sakura Construction Group Co., Ltd. မှ ၁၅% နှင့် British Virgin Island တွင်ဖွဲ့စည်းထားသည့် Ritzland Group Co., Ltd. မှ ၈၅% ဖြင့် ဖက်စပ်ကုမ္ပဏီ တည်ထောင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့်

ဆောင်ရွက်လိုကြောင်း Sakura Construction Group Co., Ltd. မှ တင်ပြထားသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေငှားရမ်းခွင့်အား Sakura Construction Group Co., Ltd. မှ တင်ဒါအောင်မြင်ခဲ့ခြင်းဖြစ်ပြီး Sakura Construction Group Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်လိုခြင်းကို ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ သဘောတူ ခွင့်ပြုပါက ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်လိုကြောင်း ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်အား ပြန်လည်တင်ပြရန်။

(ခ) ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် ဖက်စပ်ကုမ္ပဏီ Rice and Rich Hotel Co., Ltd. တို့ချုပ်ဆိုမည့် BOT စာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားတောင်းခံပြီး သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန်။

(ဂ) Sakura Construction Group Co., Ltd. မှ ဆောက်လုပ်မည့် မြေအောက်ထပ်+ RC (၁၁)ထပ်ရှိ ဟိုတယ် ဆောက်လုပ်ခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ မန္တလေး မြို့တော်စည်ပင်သာယာ ရေးကော်မတီမှ စည်းမျဉ်းစည်းကမ်း နှင့် ကိုက်ညီမှု ရှိကြောင်း ထောက်ခံထားပြီး အဆောက်အဦပုံစံတွင်လည်း အထပ် ၁၁ ထပ်ရှိကြောင်း စိစစ်တွေ့ရှိရသော်လည်း ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည့် BOT စာချုပ် (မူကြမ်း)တွင် Basement အပါအဝင် အထပ် (၉)ထပ်ရှိ ဟိုတယ် အဆောက်အဦဟု ဖော်ပြထားသဖြင့် ဟိုတယ်အဆောက်အဦ အထပ်အရေအတွက်အား ပြန်လည် စိစစ်တင်ပြရန်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်းအား ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်မည်ဆိုပါက အထက်စာပိုဒ်(၂)ပါ အချက်များကို ပြည့်စုံစွာပြုစု၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန
Sakura Construction Group Co., Ltd.
ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

DG 66
26/10/15

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာ လ ၂၆ ရက်

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ဆောင်ရွက်ရန် ရထားပို့ဆောင်ရေးဝန်ကြီးဌာနသို့ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| **ရေးသွင်းသူ** | **စိစစ်သူ** |
| --- | --- |
| [signature] 26/10 | [signature] 26/10 |
| နှင်းဖြူထွေး | သန်းသန်းနု |
| ဦးစီးအရာရှိ | လ/ထညွှန်မှူး |

**ညွှန်ကြားရေးမှူး**

၂။ [signature]

[illegible]

၃။ PAT [illegible]

[illegible]

26/10

JS

၄။ –

ညွှန်ကြားရေးမှူးချုပ်

၅။

[signature] 26/10




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

ဖုန်း/ဖက်(စ်) ၀၁-၆၅၈၁၃၃
☎- ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/မ-၁၄၉၉ /၂၀၁၅ ( ၈၃၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၆ ရက်

သို့
ပြည်ထောင်စုဝန်ကြီးရုံး
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်၍ အဆိုပြုချက်အား ပြန်လည်တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၏ (၂-၁၀-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂/၆၁ (MIC)/၂၀၁၅(၄၂၃၃)

၁။ Sakura Construction Group Co., Ltd. မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၃ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက် တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၃၈/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ Sakura Construction Group Co., Ltd.မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.Tစနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ၊ အဆောက်အဦ အရွယ်အစား၊ ကားပါကင်ထားရှိမည့်နေရာ၊ စီးပွားရေး ဆိုင်ရာတွက်ချက်မှုများ အပါအဝင် လိုအပ်ချက်များအားလုံး ပြည့်စုံစွာ ပြင်ဆင်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား၊ မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ နှင့် ကုမ္ပဏီတို့ အဆိုပြုလုပ်ငန်းကို စည်းမျဉ်းစည်းကမ်းများနှင့်အညီ အကောင်အထည်ဖော်နိုင်ရေးအတွက် ပြန်လည်ညှိနှိုင်း၍ အဆိုပြုချက်အပေါ် လိုအပ်သည်များကို ပြင်ဆင်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

(အောင်နိုင်ဦး)
အဖွဲ့ခေါင်းဆောင်

မိတ္တူကို

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့

မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့မီးရထား

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Sakura Construction Group Co., Ltd.

ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာ လ ၁၅ ရက်

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့သို့ တင်ပြမည့် အမှာစာအား အတည်ပြုပေးနိုင်ပါရန်တင်ပြအပ်ပါသည်။

15/10

(နှင်းဖြူထွေး)
ဦးစီးအရာရှိ

**လ/ထညွှန်မှူး**

၂။ သင်တန်း

**ညွှန်ကြားရေးမှူး**

၃။

15.10.15

DDP H
15.10.15

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

## အဆိုပြုချက်စိစစ်ရေးအဖွဲ့

စာအမှတ်၊ ရက-၄ /မ-၁၄၉၉/၂၀၁၅ ( ၈၈၃ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာ လ ၁၃ ရက်

**အဆိုပြုချက် စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ Sakura Construction Group Co., Ltd. မှ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇ x ၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိမြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ အား B.O.T စနစ်ဖြင့် ငှါးရမ်းပြီး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ယုယုဇော် မှ ရထားပို့ဆောင်ရေး ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု ချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက် နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Sakura Construction Group Co., Ltd. မှ B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ခွင့်အတွက် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင် ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မြစန္ဒာ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို -

ရုံးလက်ခံ

လျှို့ဝှက်

# Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Sakura Construction Group Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်ယုယုဇော်<br>- မန်နေဂျင်းဒါရိုက်တာ |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.T စနစ်ဖြင့် Basement ပါအထပ်(၉)ထပ်ရှိ အခန်း(၁၈၀)ပါ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊မြန်မာ့မီးရထားပိုင် မန္တလေးတိုင်းဒေသကြီး၊ မန္တလေးမြို့၊ (၂၈)လမ်း၊ (၇၇x၇၈)လမ်းကြား၊ ရွှေဥဒေါင်း စာကြည့်တိုက်အနောက်ဘက်ရှိ မြေ (အလျား ၁၁၃' x အနံ ၁၀၀' ) ၁၁၃၀၀ စတုရန်းပေ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၁၄၁၈၀ သန်း (US$ ၆.၃၀သန်းခန့်အပါအဝင်)** |

(ကျပ်သန်းပေါင်း)

| | | (ကျပ်) | US$ | စုစုပေါင်း |
|---|---|---|---|---|
| လှည့်လည်ငွေရင်း | - | ၁၃၇၇.၂၂ | ၀.၆၈ | ၂၂၅၉.၆၀ |
| ဆောက်လုပ်ရေးပစ္စည်း | - | ၄၂၆၂.၇၈ | ၅.၃၅ | ၁၁,၂၁၄.၆၃ |
| ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | - | - | ၀.၂၇ | ၃၅၅.၇၇ |
| မော်တော်ယာဉ် | - | ၁၀၀.၀၀ | - | ၁၀၀.၀၀ |
| မြေအသုံးချမှုအတွက် ပရီမီယံ | - | ၂၅၀.၀၀ | - | ၂၅၀.၀၀ |
| **စုစုပေါင်း** | - | **၅၉၈၉.၉၀** | **၆.၃၀** | **၁၄,၁၈၀.၀၀** |

| | | |
|---|---|---|
| ၆။ | တည်ဆောက်ရေးကာလ | ၃၀ လ |
| ၇။ | ပဏာမစူးစမ်းလေ့လာမှုကာလ | ၁ နှစ် ခန့် |
| ၈။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦးနှစ် ၃၀ နှင့် နောက်ထပ် ၅ နှစ် ၂ ကြိမ် သက်တမ်းတိုးမြှင့် ငှားရမ်းမည်ဖြစ်ပါသည်။ |
| ၉။ | ဝန်ဆောင်မှု (၆)နှစ်မြောက်) | |

| စဉ် | အမျိုးအစား | အခန်းအရေအတွက် (ခန်း) | ဝန်ဆောင်မှုပေးမည့်အခန်း (Occupancy Rate %) | ဝန်ဆောင်ခနှုန်း (တစ်ရက်/တစ်ခန်း) | |
|---|---|---|---|---|---|
| | | | | US$ | ကျပ် |
| (က) | Standard Room | ၁၈၀ | ၆၂ | ၁၂၄ | ၈၀၆၀၀ |
| | **စုစုပေါင်း** | **၁၈၀** | | | |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ(၆)နှစ်မြောက် ဝင်ငွေအားကောက်နုတ်တင်ပြထားခြင်းဖြစ်ပါသည်။ | - ကျပ် ၁၉၆၉.၉၀ သန်း<br>- US$ ၃.၀၃ သန်း |
| ၁၁။ | အသားတင်အမြတ် | - ကျပ် ၆၉၂.၆၈ သန်း<br>- US$ ၀.၉၈ သန်း |

| | | |
|---|---|---|
| ၁၂။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၆၇၁.၄၁ သန်း<br>- ကျပ် ၉၃.၈၀ သန်း ၊ US$ ၀.၁၄ သန်း |
| ၁၃။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - ၉၃ ဦး<br>၈၉ ဦး (တစ်လလျှင် ပြည်တွင်း လုပ်သား တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁၅၀ ၊ အမြင့်ဆုံး လစာမှာ US$ ၈၀၀ ဖြစ်ပါ သည်။)<br>- ၄ ဦး (တစ်လလျှင် ပြည်ပ လုပ်သား တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၃၀၀၀ ၊ အမြင့်ဆုံး လစာမှာ US$ ၅၀၀၀ ဖြစ်ပါသည်။) |
| ၁၄။ | အရင်းကြေကာလ | - ၆ နှစ် |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၇.၉၁ % |
| ၁၆။ | ငွေကြေးအထောက်အထား | - တင်ပြထားခြင်းမရှိပါ။ |
| ၁၇။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား အချိုးကျ သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အား | - ၂၂၅၀ KVA |
| ၁၉။ | အခြားတင်ပြချက်များ | (က) ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉) ကွက်အား ထိရောက်စွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေ တိုးတက်ရရှိစေရန် ပြည်တွင်း လုပ်ငန်းရှင်များကို တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သော လုပ်ငန်းများကို ဆောင်ရွက်ခွင့် ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာ ကော်မတီ၏ ၁၉/၂၀၁၃ (၁၃-၁၁-၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော် သမ္မတကြီးထံ တင်ပြခဲ့ပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူရန် လမ်းညွှန်ခဲ့ပြီး နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက် ရန် လမ်းညွှန်ခဲ့ပါကြောင်း။<br><br>(ခ) မန္တလေးဘူတာကြီးနယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်း ရှင် များနှင့် ပူပေါင်း၍ BOT စနစ်ဖြင့် နှစ်ရှည်ငှားရမ်း လုပ်ကိုင် နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူ ဆောင်ရွက်ခဲ့ပါကြောင်း။<br><br>(ဂ) တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေး တိုင်းဒေသကြီး၊ မန္တလေးမြို့၊ မန္တလေးမြို့ (၂၈)လမ်း၊ (၇၇x၇၈)လမ်း ကြား၊ ရွှေဥဒေါင်း စာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ် (အလျား ၁၁၃' x အနံ ၁၀၀')၁၁၃၀၀ စတုရန်းပေတွင် ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခြင်း အတွက် Sakura Construction Group Co., Ltd.နှင့် စာချုပ်ချုပ်ဆိုခြင်းလုပ်ငန်း ဆောင်ရွက်ရန် ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၃၀ ရက်နေ့တွင် ကျင်းပသော ရထားပို့ဆောင်ရေး ဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီ၏ ၃၄/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးမှ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက် ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါကြောင်း။ |

| | | |
|---|---|---|
| | | (ဃ) မန္တလေးတိုင်း ဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ Sakura Construction Group Co., Ltd. သို့ BOT စနစ်ဖြင့် အကျိုးတူ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းဖြစ်ပါကြောင်း။ |
| ၂၀။ | B.O.Tစာချုပ်(မူကြမ်း)ပါအဓိက အချက်များ | ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားနှင့် Sakura Construction Group Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်းကာလမှာ ကနဦးနှစ်(၃၀) နှင့် နှစ်ဖက်ညှိနှိုင်း၍ တစ်ကြိမ်လျှင် (၅)နှစ် နှစ်ကြိမ်သက်တမ်း တိုးမြှင့်ငှားရမ်းမည် ဖြစ်ပါသည်။ စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အဆိုပါမြေကို Sakura Construction Group Co., Ltd. သို့ မြန်မာ့မီးရထားမှ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။ **အပိုဒ်-၂(က)**<br>(၂) Sakura Construction Group Co., Ltd. သည် မြေကို လွှဲပြောင်းလက်ခံ ရရှိသည့် နေ့မှစ၍ အဆောက်အဦကို ၁၈ လအတွင်း အပြီးသတ် တည်ဆောက်ရမည်ဖြစ်ပြီး တည်ဆောက်ပြီးစီးခြင်း မရှိပါက ၁၈ လပြည့်သည့် နေ့မှစ၍ လစဉ် သတ်မှတ်ထားသော ငှားရမ်းခများကို ပေးသွင်းရမည်ဖြစ်ပါသည်။<br>(၃) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ်သိန်း ၂၅၀၀ အား မြန်မာ့မီးရထားသို့ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း(၃၀) အတွင်း အပြီးအပြတ်ပေးသွင်း ရမည်ဖြစ်ပါသည်။ **အပိုဒ်-၃(က)**<br>(၄) ငှားရမ်းမည့်မြေ (၁၁၃ ပေ x ၁၀၀ ပေ)အတွက် နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ်သိန်း ၁၂၀၀ နှုန်းဖြင့် အောက်ပါအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်- **အပိုဒ်-၄(က)**<br>- စာချုပ်လက်မှတ်ရေးထိုးပြီးနောက် အဆောက်အဦ ပြင်ဆင်ချိန် (၁၈)လ ပြည့်ပြီး ရက်ပေါင်း(၃၀)အတွင်း နှစ်စဉ်ငှားရမ်းခဖြစ်သော ပထမ(၆)လအတွက် ကျပ်သိန်း ၆၀၀ ကို ပေးသွင်းရန်။<br>- ပထမအရစ်ပေးသွင်းပြီး (၆)လ ပြည့်ချိန်တွင် ဒုတိယအရစ်အဖြစ် ဒုတိယ (၆)လ အတွက် ကျပ်သိန်း ၆၀၀ ကိုပေးသွင်းရန်။<br>- ကျန်နောက်နှစ်များတွင် နှစ်စဉ်သတ်မှတ်ထားသည့် ငှားရမ်းခကို (၆)လလျှင် (၁)ကြိမ်၊ တစ်နှစ်(၂)ကြိမ်ခွဲ၍ ပေးသွင်းရန်။<br>(၅) နှစ်စဉ်မြေငှားရမ်းခကို (၅)နှစ်တစ်ကြိမ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် နှစ်ဖက်ပြန်လည်ညှိနှိုင်း သုံးသပ်ရမည်။ ငှားရမ်းခထပ်မံ တိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့် မည့်နှုန်းသည် မူလငှားရမ်းခ၏ ၁၀% ထက် မကျော် လွန်စေရပါ။ **အပိုဒ်-၄(ဂ)** |
| ၂၁။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုး ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရ ဖော်ပြထားခြင်း |

| | | |
|---|---|---|
| | | သာ ဖြစ်ပါသည်။<br>(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ အောက်ပါ အချက်များကို ပြင်ဆင်ရန်လိုအပ်ကြောင်းစိစစ်တွေ့ရှိရပါသည်-<br>(၁) မြေငှားစာချုပ်အပိုဒ်-၂(ခ)တွင် မြေငှားရမ်းမည့်ကာလကို ---- နေ့မှစ၍ နှစ်(၃၀) စတင်ရေတွက်မည်ဟု ဖော်ပြထားသဖြင့် မြေငှားရမ်းကာလ စတင်မည့်နေ့ရက် ဖော်ပြပေးရန်။<br>(၂) မြေငှားစာချုပ်အပိုဒ်-၉တွင် မြေနှင့်အဆောက်အအုံ လွှဲပြောင်းပေး မည့် နေ့ရက်အား ဖော်ပြပေးရန်။<br>(၃) မြေငှားရမ်းမည့် သက်တမ်းကာလ နှင့် စာချုပ်သက်တမ်း ညီညွတ်မှု ရှိစေရန်။<br>(ဂ) အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားငွေ အထောက်အထားနှင့် ကျပ်ငွေ အထောက်အထားများ တင်ပြထား ခြင်းမရှိပါ။<br>(ဃ)အဆိုပြုလုပ်ငန်းအတွက် ငှားရမ်းမည့်မြေ အလျား ၁၁၃' x အနံ ၁၀၀' တွင် မန္တလေးမြို့တော် စည်ပင်သာယာရေး ကော်မတီ၏ လုပ်ထုံး လုပ်နည်းနှင့်အညီ အရှေ့ ၁၂ ပေ၊ အနောက် ၆ ပေ နှင့် ဘေး ၃ပေ စီချန်၍ ဆောက်လုပ်မည် ဖြစ်ကြောင်း Layout Plan ပူးတွဲ တင်ပြထားပြီ BOT စာချုပ်အပိုဒ်-၇(က)အရ အလျား ၉၄ ပေ၊ အနံ ၇၉ ပေရှိ Baement ပါ အထပ်(၉)ထပ်ရှိ ဟိုတယ်တည်ဆောက်မည် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(င) ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထား နှင့် Sakura Construction Group Co., Ltd. တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်။<br>(စ) အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန နှင့် မန္တလေးမြို့တော် စည်ပင် သာယာရေးကော်မတီတို့သို့ သဘောထားများ တောင်းခံမည်ဖြစ်ပါ သည်။ |

လျှို့ဝှက်

၄

၃၈/၂၀၁၅ PAT Agenda (မြန်မာနိုင်ငံသား)

Sakura Construction Group Co., Ltd. မှ မန္တလေးတိုင်းဒေသကြီးတွင် B.O.T စနစ်ဖြင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရထား ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြု တင်ပြလာခြင်းကိစ္စ

**အထူးဖိတ်များ**

(၁) ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့မီးရထား
ရထားပို့ဆောင်ရေးဝန်ကြီးဌာန

(၂) ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

(၃) အတွင်းရေးမှူး
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ

14/10

14/10

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ရာတွင် စိစစ်ရမည့် အဓိက အချက်များ

ကဏ္ဍ - ဟိုတယ်နှင့် ခရီးသွား

ဆောင်ရွက်မည့်လုပ်ငန်း - ဟိုတယ်/ခရီးသွား လုပ်ငန်း.

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ** | |
| | (က) ကိုယ်ပိုင်မြေ ဖြစ်ပါက လန/ ၃၉ ရရှိကြောင်း အထောက်အထား/ လျှောက်ထားဆဲ အထောက်အထား/ မြေစာရင်းပုံစံ (၁၀၅) တင်ပြရန်၊ | |
| | (ခ) ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်လျှင် အငှားစာချုပ် (မူကြမ်း) | |
| | (ဂ) ဌာနပိုင်မြေ အဆောက်အဦပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | ✓ |
| ၂။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ** | |
| | (က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊ | ✓ |
| | (ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ |
| ၃။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ** | |
| | (က) နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက် | ✓ |
| | (ခ) ဝန်ဆောင်မှုအစီအစဉ် | ✓ |
| | (ဂ) အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ |
| | (ဃ) ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်းအချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ |
| | (င) နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (ဝင်ငွေခွန်/ ကုန်သွယ်လုပ်ငန်းခွန်) | ✓ |
| | (စ) အလုပ်အကိုင် ရရှိမှု အခြေအနေ (ပြည်တွင်း/ပြည်ပ ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓ |
| ၄။ | **ငွေကြေးအထောက်အထား** | |
| | (က) ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှအပ ဘဏ် အထောက်အထား တင်ပြရန်၊ | x |
| | (ခ) ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ | x |

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၅။ | **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ဟိုတယ်လုပ်ငန်းလိုင်စင်** | n.c |
| ၆။ | - ဟိုတယ်လုပ်ငန်းဖြစ်ပါကအမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းအသီးသီး မှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက်တင်ပြရန်၊ | |
| ၇။ | **<u>အထွေထွေ</u>** | |
| | (က) အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✓ |
| | (ခ) ကတိဝန်ခံချက် | ✓ |
| | (ဂ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✗ |
| | (ဃ) လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✗ |
| | (င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✓ |
| | (စ) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✓ |
| | (ဆ) အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံ မိတ္တူ | n.c |
| | (ဇ) အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | ✓ |
| | (ဈ) လူမှုသဘာဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility- CSR) ဆောင်ရွက်မည့် အစီအစဉ်တင်ပြရန်။ (ရရှိမည့်အကျိုးအမြတ်၏ ရာခိုင်နှုန်းတစ်ရပ် တိတိကျကျ သတ်မှတ်ဖော်ပြရန်) | ✗ |
| | (ည) ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✓ |
| ၈။ | **လုပ်ငန်းနှင့် သက်ဆိုင်သည့် စာချုပ်များ** | |
| | (က) ဌာနပိုင်မြေကို BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါက ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့် အညီပြုစုထားသည့် BOT စာချုပ် (မူကြမ်း) | ✓ |
| | (ခ) ဌာနနှင့် ဖက်စပ်လုပ်ငန်း ဆောင်ရွက်ပါက လုပ်ငန်းသဘောတူ စာချုပ် (မူကြမ်း) | |

[illegible] / BQ / Drawing / Conceptual Plan.

| လာရောက်တင်ပြသူ | | စိစစ်သူ | |
|---|---|---|---|
| လက်မှတ် | [signature] | လက်မှတ် | [signature] |
| အမည် | [illegible] | အမည် | [illegible] |
| တာဝန် | Managing Director | ရာထူး | [illegible] |
| ကုမ္ပဏီ | Sakura Group Co., Ltd. | ဌာနခွဲ | [illegible] |
| နေ့စွဲ | 5.10.15 | နေ့စွဲ | ၅.၁၀.၂၀၁၅ |
| | 09972335333 | | |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ရထားပို့ဆောင်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၂ / ၆၁(MIC) / ၂၀၁၅ ( ၄၂၇၃ )

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင်မြေနေရာအား ဆာကူရာကုမ္ပဏီ လီမိတက်သို့ B.O.T စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၀၁၅ ခုနှစ်၊ မတ်လ (၆)ရက်စွဲပါ စာအမှတ်၊ ၂/၆၁(MIC)/ ၂၀၁၅(၈၀၈)

၁။ ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင်မြေများအနက် ရထားသွားလာရေးနှင့် လွတ်ကင်းသော/အနာဂတ်စီမံကိန်းလျာထားမှုမရှိသော မြေလွတ်(၁၉)ကွက်အား ထိရောက်အကျိုးရှိစွာ အသုံးချခြင်းဖြင့် ဌာနအတွက် ဝင်ငွေတိုးတက်ရရှိပြီး ရထားလုပ်ငန်းအတွက် နိုင်ငံတော်က စိုက်ထုတ်သုံးစွဲနေရမှုကို အတိုင်းအတာတစ်ခုအထိ ကာမိစေရန် ရည်ရွယ်လျက် ပြည်တွင်းလုပ်ငန်းရှင်များသို့ တင်ဒါခေါ်ယူ၍ ပို့ဆောင်ရေးကဏ္ဍနှင့်ဆက်စပ်သော အကျိုးတူလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ (၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စုအစိုးရအဖွဲ့၊ စီးပွားရေးရာ ကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၉/၂၀၁၃)သို့ တင်ပြခဲ့ရာ နိုင်ငံတော်သမ္မတကြီးထံတင်ပြပြီး ပြည်နယ်/တိုင်းဒေသကြီးအလိုက် တင်ဒါခေါ်ယူဆောင်ရွက်ရန် လမ်းညွှန်ခဲ့သည့်အပြင် နိုင်ငံတော်သမ္မတရုံးမှလည်း လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် လမ်းညွှန်ခဲ့ပါသည်။

၂။ အထက်ပါရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့မီးရထားပိုင် မြေလွတ်(၁၉)ကွက်အနက် သယ်ယူပို့ဆောင်ရေးကဏ္ဍနှင့် ဆက်စပ်သောလုပ်ငန်းများကို ဆောင်ရွက်ရန် မန္တလေးဘူတာကြီးနယ်မြေရှိ ဌာနပိုင်မြေအချို့အား ပြည်တွင်းလုပ်ငန်းရှင်များနှင့်ပူးပေါင်း၍ နှစ်ရှည် B.O.T စနစ်ဖြင့် ငှားရမ်းလုပ်ကိုင်နိုင်ရေးအတွက် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်မှုဖြင့် တင်ဒါခေါ်ယူဆောင်ရွက်ခဲ့ပါသည်။

၃။ တင်ဒါခေါ်ယူဆောင်ရွက်ပြီးနောက် တင်ဒါစိစစ်ရွေးချယ်ရေးကော်မတီ၏ အတည်ပြုချက်အရ မန္တလေးမြို့(၂၈)လမ်း၊ (၇၇×၇၈)လမ်းကြား၊ ရွှေဥဒေါင်းစာကြည့်တိုက် အနောက်ဘက်ရှိ မြေလွတ်(အလျား ၁၁၃' × အနံ ၁၀၀')၌ ဟိုတယ်အဆောက်အဦဆောက်လုပ်ခြင်းအတွက် ဆာကူရာကုမ္ပဏီလီမိတက်နှင့် စာချုပ်ချုပ်ဆို လုပ်ငန်းဆောင်ရွက်ရန် ကိစ္စနှင့်ပတ်သက်၍ ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ (၃၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရထားပို့ဆောင်ရေးဝန်ကြီးဌာန၊ အမှုဆောင်ကော်မတီအစည်းအဝေး

\\User1\d\Section(1)(2015)\1_61_2015\1_61(MIC)_2015.doc

အမှတ်စဉ် (၃၄/၂၀၁၄)က သက်ဆိုင်ရာ ကုမ္ပဏီနှင့် စာချုပ်ချုပ်ဆိုလုပ်ငန်းဆက်လက်ဆောင်ရွက်နိုင်ရေး လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ဆုံးဖြတ်ခဲ့ပါသည်။

၄။ မြန်မာ့မီးရထားနှင့် ဆာကူရာကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ဥပဒေကြောင်းအရ စိစစ်သုံးသပ်အကြံပြုချက်တောင်းခံခဲ့ပြီး ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ပြင်ဆင်ပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ မန္တလေးတိုင်းဒေသကြီးရှိ မြန်မာ့မီးရထားပိုင် မြေနေရာအား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ စာချုပ်ချုပ်ဆို၍ ဆာကူရာကုမ္ပဏီလီမိတက်သို့ B.O.T စနစ်ဖြင့် အကျိုးတူဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာနှင့်အတူပေးပို့တင်ပြအပ်ပါသည်။

ပူးတွဲ - အဆိုပြုလွှာ(၁)စုံ

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ဇော်မင်းဦး - အမြဲတမ်းအတွင်းဝန် )

မိတ္တူ

မြန်မာ့မီးရထား